ပုံစံ (မနသ-၂)

တအမှတ် ၄၈၄-က

ရက်စွဲ ၂၆/၃/၂၀၁၆

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၁၆၃/၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးအောင်မြတ်

(ခ) **အဘ အမည်** ဦးသိန်းမြင့်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ဥကတ(နိုင်)၀၂၃၀၃၉

(ဃ) **နေရပ်လိပ်စာ** အမှတ်-၃၇၊ ဝေဇယန္တာလမ်း၊ ၉ ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** New General Industry Co., Ltd. (သစ်လွင်အထွေထွေ စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** PVC Pipe အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း ၂ ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ် ၂၉/ဘီ စက်မှုဝန်ကြီးဌာန၊ မြန်မာ့ ဆေးဝါး လုပ်ငန်းပိုင် အမှတ် (၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း)ရှိ မြေဧရိယာ(၁.၁၈)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၆၂၀.၀၀ တိတိ(ကျပ်သန်းခြောက်ရာ့နှစ်ဆယ် တိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၁ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၃၅ နှစ်

၂၆/၃

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၇၅ /၂၀၁၆(မနသ)

၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော သစ်လွင်အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited)သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် အမှတ် (၁) ပလတ်စတစ် စက်ရုံ (ရန်ကုန်) ၏ စက်ရုံခွဲ (မရမ်းကုန်း) အမှတ် ၂၉/ဘီ၊ ပေါ်တော်မူဘုရားလမ်း၊ သမိုင်း ၂ ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၁၈ ဧကအား ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ PVC Pipe အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချ ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်ကို ၂၀၁၆ ခုနှစ် မတ်လ ၄ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် ၏ (၈/၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (New General Industry Company Limited) ကို PVC Pipe အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက် နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၆၃/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုနိုင်ရန် ဤ အမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီး မြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

ကန့်သတ်

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ဋ)အရ ပြည်ပသို့ တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited) သည် ဤခွင့်ပြုမိန့်အရလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများ ကို သီးခြား ပြုစုထားရှိရမည်။

၆။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာ တွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း) ပိုင် အမှတ်(၁)ပလတ်စတစ်စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ(မရမ်းကုန်း)ရှိ မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦနှင့် ရုံးသုံးပစ္စည်းများအား ငှားရမ်းမည့် သဘောတူစာချုပ်ကို ကော်မရှင်၏ ခွင့်ပြုချက်နှင့် အညီ ကိုက်ညီအောင် ပြန်လည် ချုပ်ဆို ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့် ၁-၇-၂၀၁၂ နေ့မှစတင်၍ ကနဦးနှစ်(၂၅)နှင့် သက်တမ်းတိုးမြှင့်မည့် ကာလ မှာ တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၂)ကြိမ် ဖြစ်ပါသည်။ ကနဦး ၂၅ နှစ် သက်တမ်း ကုန်ဆုံးမည့် အချိန်နီးမှသာ ကနဦး သက်တမ်းကို နှစ် ၅၀ သို့ သက်တမ်း တိုးမြှင့်ခွင့်ကို ပြန်လည် တင်ပြရမည်။ ထိုသို့ စာချုပ် သက်တမ်း ကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited) သည် စက်ရုံ၊ မြေနှင့် အဆောက်အဦ များ၏ ငှားရမ်းခနှုန်းထားအဖြစ် တစ်နှစ်လျှင် ကျပ်သန်း ၆၀.၂၀ (ကျပ် ခြောက်ဆယ့်တစ်သန်းနှစ်သိန်းတိတိ) အား စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း) သို့ ပေးသွင်းရမည်။

၉။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited) သည် အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် အမှတ်(၁) ပလတ်စတစ်စက်ရုံ၏

စက်ရုံခွဲ (မရမ်းကုန်း)ကို အငှားချထားသူ စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း)နှင့် အငှားချထားခြင်းခံရသူ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် အမှတ်(၁)ပလတ်စတစ်စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ(မရမ်းကုန်း)ရှိ မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ နှင့် ရုံးသုံးပစ္စည်းများအား ငှားရမ်းခြင်းသဘောတူ စာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်း ခွန်များအား ဆောင်ပြီးသည့်အခါ ယင်း သဘောတူစာချုပ်မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၀။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာ တွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေး တို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ချက် (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်း ဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံ ရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၂။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက် ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက် ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၃။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက် ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၄။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသောပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှုအခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေး ဦးစီးဌာန တွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိဆောင်ရွက်ရမည်။

၁၆။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited) သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်**တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၈။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် (New General Industry Company Limited) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း

သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(c)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်း ခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက် ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

၂၆/...

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၃/မ-၁၃၁၉/၂၀၁၆ ( ၄၇၄·၈ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း)

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်

(New General Industry Company Limited)

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၆ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်သစ်လွင်အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှစက်မှုဝန်ကြီးဌာန၊မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် အမှတ်(၁) ပလတ် စတစ် စက်ရုံ၏ စက်ရုံခွဲ (မရမ်းကုန်း)တွင် PVC Pipe အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြ လာခြင်း ကိစ္စ**

၁။ သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ ဆေးဝါး လုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း ၂ ရပ်ကွက်၊ ပေါ်တော်မူ ဘုရားလမ်း၊ အမှတ် ၂၉/ဘီ အမှတ် (၁) ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း) မြေဧရိယာ ၁.၁၈ ဧက (၄၇၇၅.၂၉၄၈ စတုရန်း မီတာ)ရှိ မြေနှင့် ယင်း မြေပေါ်ရှိ အဆောက် အဦနှင့် ရုံးသုံး ပစ္စည်းများအား ငှားရမ်း၍ PVC Pipe အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချ ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ သားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်ကို ၂၀၁၆ ခုနှစ် မတ်လ ၄ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ ၈/၂၀၁၆ ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြ ဆွေးနွေးခဲ့ပြီး အစည်း အဝေးမှ "အမှတ်(၁)ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ(မရမ်းကုန်း)တွင် ဆောင်ရွက်မည့် လုပ်ငန်းနှင့် စပ်လျဉ်း၍ ကွင်းဆင်းစစ်ဆေးရန်" ဆုံးဖြတ်ခဲ့ပါသည်။

၃။ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ရုံးအဖွဲ့မှ ခေါင်းဆောင်လျက် ၁၀-၃-၂၀၁၆ ရက်နေ့တွင် ကွင်းဆင်းစစ်ဆေးခဲ့ပါသည်။ ကွင်းဆင်း စစ်ဆေး တွေ့ရှိချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လက်ရှိဆောင်ရွက်မည့် PVC Pipe များ ဆောင်ရွက်သည့် လုပ်ငန်း၏ အခိုးအငွေ့ ထုတ်လွှတ်မှုကို အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များ အတိုင်း ဆောင်ရွက်ရန်။

(ခ) စက်ပစ္စည်းအသစ်များ ထပ်မံတပ်ဆင်ရန် လိုအပ်ကြောင်း စိစစ်တွေ့ရှိရသဖြင့် ရင်းနှီးမြှုပ်နှံမှုနှင့် အခြားစီးပွားရေးဆိုင်ရာ တွက်ချက်မှုများ ပြင်ဆင် တင်ပြရန်။

(ဂ) အဆောက်အဦများမှာ ခွင့်ပြုမိန့် ရပြီးပါက အတွင်းနှင့် အပြင်အား ပြန်လည် ပြင်ဆင်ရန်။

၄။ ကွင်းဆင်းစစ်ဆေးရေး အဖွဲ့၏ လမ်းညွှန်ချက်များအပေါ် သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှလည်း ၁၁-၃-၂၀၁၆ ရက်နေ့တွင် တစ်ဖက်ပါ အတိုင်း ပြင်ဆင် တင်ပြ လာပါသည်-

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

(က) PVC Pipe ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ Environmental Impact Assessment (EIA) အစီရင်ခံစာကို NeoTech Myanmar Co., Ltd. သို့ ရေးဆွဲရန် အလုပ်အပ်နှံထားပါကြောင်း။

(ခ) PVC Pipe ထုတ်လုပ်သည့် စက်သစ်များ တပ်ဆင်ရန်အတွက် ရင်းနှီးမြှုပ်နှံမှု ထပ်မံ တိုးမြှင့် ဆောင်ရွက်လျက် ပြည်တွင်းမှဝယ်ယူ တပ်ဆင်မည် ဖြစ်ကြောင်း။

၅။ စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းမှ ရင်းနှီးမြှုပ်နှံမှု တန်ဖိုးတွင်လည်း PVC Pipe ထုတ်လုပ်သည့် စက်နှင့်စက်ပစ္စည်း တန်ဖိုး၊ မြေငှားရမ်းခ ၂ နှစ် တန်ဖိုး တို့အား ထပ်မံ ထည့်သွင်း၍ ပြင်ဆင် တွက်ချက်ထားပြီး မူလ ရင်းနှီးမြှုပ်နှံမှု ကျပ် ၇၀.၀၀ သန်းမှ ကျပ် သန်း ၅၅၀.၀၀ သန်း ထပ်မံ တိုးမြှင့်၍ စုစုပေါင်း ကျပ် ၆၂၀.၀၀ သန်း ရင်းနှီး မြှုပ်နှံမည် ဖြစ်ကြောင်း နှင့် စီးပွားရေးဆိုင်ရာတွက်ချက်မှုများအားပြင်ဆင်တင်ပြလာပါသည်။ ရင်းနှီးမြှုပ်နှံမှုထည့်ဝင်မှုမှာ အောက်ပါအတိုင်း ဖြစ်ကြောင်း စိစစ် တွေ့ရှိရပါသည်-

(ကျပ်သန်း)

| စဉ် | အကြောင်းအရာ | မူလ ရင်းနှီးမြှုပ်နှံမှု | ပြင်ဆင်ပြီး ရင်းနှီးမြှုပ်နှံမှု |
|---|---|---|---|
| (က) | ငွေသား | ၈.၈၀ | ၁၁၂.၀၀ |
| (ခ) | မြေငှားရမ်းခ | ၆၁.၂၀ | ၁၂၂.၄၀ |
| (ဂ) | စက်နှင့်စက်ပစ္စည်း (ပြည်တွင်း) | - | ၁၂၆.၀၀ |
| (ဃ) | ပြုပြင်မွမ်းမံစရိတ် | - | ၂၅၉.၆၀ |
| | **စုစုပေါင်း** | **၇၀.၀၀** | **၆၂၀.၀၀** |

၆။ သို့ဖြစ်ပါ၍ ရင်းနှီးမြှုပ်နှံသူသို့ ခွင့်ပြုမိန့် ထုတ်ပေးခွင့်ပြုပါရန်နှင့် ရင်းနှီးမြှုပ်နှံသူသို့ ထုတ်ပေးမည့်ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာတို့တွင် လက်မှတ် ရေးထိုးပေးနိုင်ပါရန် တင်ပြ အပ်ပါသည်။

(အောင်နိုင်ဦး)
အတွင်းရေးမှူး

**ဥက္ကဋ္ဌ**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၁၂၈
ဖက်(စ်) -၀၁-၆၅၈၁၄၁


စာအမှတ်၊ ရက- ၃/ မ-သစ်လွင်/၂၀၁၆( ၃၇၄ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၇ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ **သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါး လုပ်ငန်းပိုင် အမှတ်(၁)ပလတ်စတစ် စက်ရုံ(ရန်ကုန်)၊ စက်ရုံခွဲ (မှော်ဘီ)နှင့်စက်ရုံခွဲ(မရမ်းကုန်း)တို့တွင်လုပ်ငန်းဆောင်ရွက်မည့်အဆိုပြုချက်များနှင့်စပ်လျဉ်း၍ ကော်မရှင်အစည်းအဝေးဆုံးဖြတ်ချက် အကြောင်းကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) စက်မှုဝန်ကြီးဌာန၏ ၇-၁၂-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၂၃-စမ(၂) ၂၀၁၅-၂၀၁၆ (၃၀၂၃)

(၂) သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်၏ ၁၄-၁-၂၀၁၆ ရက်စွဲပါစာ

၁။ သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါး လုပ်ငန်းပိုင် အမှတ် (၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)၊ အမှတ်(၁) ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ (မှော်ဘီ) တွင် နိုင်ငံတကာ အဆင့်မီ Plastic Shopping Bag အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း နှင့် အမှတ်(၁) ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း) တွင် PVC Pipe အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာ နိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါ စာများဖြင့် တင်ပြ လာပါသည်။

၂။ ၎င်းတင်ပြချက်အပေါ် ၂၀၁၆ ခုနှစ် မတ်လ ၄ ရက် နေ့တွင် ကျင်းပ ပြုလုပ် သည့် မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-

(က) အမှတ်(၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)တွင် ဆောင်ရွက်မည့် လုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာ့ဆေးဝါးလုပ်ငန်းမှ ငှားရမ်းသည့် မြေဧရိယာတွင် ရတနာ သိင်္ဂီကုမ္ပဏီသို့ ငှားရမ်းသည့် မြေဧရိယာ ၁.၇၅၆ ဧက ပါဝင်နေကြောင်း စိစစ် တွေ့ရှိရသဖြင့် အဆိုပြု မြေဧရိယာ အမှန်ကို ဖော်ပြ၍ ပြင်ဆင် တင်ပြရန်။

(ခ) အမှတ်(၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ (မှော်ဘီ) တွင် ဆောင်ရွက်မည့် လုပ်ငန်းနှင့် စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှု ထည့်ဝင်ငွေနှင့် စက်ပစ္စည်း စာရင်းများအား မူလထည့်ဝင်ပြီးနှင့် တိုးချဲ့စာရင်း အသေးစိတ် ခွဲခြား၍ ပြင်ဆင်တင်ပြရန်။

(ဂ) အမှတ်(၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း) တွင် ဆောင်ရွက်မည့် လုပ်ငန်းနှင့် စပ်လျဉ်း၍ ကွင်းဆင်းစစ်ဆေးရန်။

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ် ၂(က)နှင့်(ခ)အား အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ပြီး စက်မှုဝန်ကြီးဌာနမှတဆင့် ပြန်လည် တင်ပြရန် အကြောင်းကြား ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးလုပ်ငန်း
သစ်လွင်အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်
ရုံးလက်ခံ/ မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၂၀၁၆ ခုနှစ်၊မတ်လ (၄) ရက်၊ နံနက် ၉:၀၀ နာရီတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၈/၂၀၁၆ ကြိမ်မြောက် **အစည်းအဝေးမှတ်တမ်း**

အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးသို့ တက်ရောက်ကြပါသည် -

| | |
|---|---|
| ဦးဇေယျာအောင်<br>ပြည်ထောင်စုဝန်ကြီး<br>စွမ်းအင်ဝန်ကြီးဌာန<br>ဆက်သွယ်ရေး၊သတင်းအချက်အလက်နှင့် နည်းပညာဝန်ကြီးဌာန | ဥက္ကဋ္ဌ |
| ဦးဌေးအောင်<br>ပြည်ထောင်စုဝန်ကြီး<br>ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန | ဒုတိယဥက္ကဋ္ဌ |
| ဗိုလ်မှူးချုပ်ကျော်ဇံမြင့်<br>ဒုတိယဝန်ကြီး<br>ပြည်ထဲရေးဝန်ကြီးဌာန | အဖွဲ့ဝင် |
| ဒေါက်တာအောင်ထွန်းသက်<br>စီးပွားရေးပညာရှင် | အဖွဲ့ဝင် |
| ဦးညွန့်တင်<br>သံအမတ်ကြီး(အငြိမ်းစား) | အဖွဲ့ဝင် |
| ဒေါက်တာထွန်းရှင်<br>ပြည်ထောင်စုရှေ့နေချုပ်<br>ပြည်ထောင်စုရှေ့နေချုပ်ရုံး | အဖွဲ့ဝင် |
| ဦးဝင်းခိုင်<br>ဥက္ကဋ္ဌ<br>မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | အဖွဲ့ဝင် |

[illegible] အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းမှ အထွေထွေမန်နေဂျာ ဦးအောင်နိုင်ဦး [illegible] ဂွမ်းကပ်စောင်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း နှင့်စပ်လျဉ်း၍ [illegible] ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ထားကြောင်း၊ EI လျှပ်စစ်ပစ္စည်း [illegible] လာရောက်စစ်ဆေးမှု ပြုလုပ်ခဲ့ကြောင်း၊ အဆိုပြုတင်ပြထားသည့် ထုတ်ကုန်များ [illegible] မှာဆီလျော်မှုရှိသည်ကိုတွေ့ရှိရပါကြောင်း၊ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီး [illegible] အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းရှင်းလင်းတင်ပြပါသည်။

[illegible] ဥက္ကဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က သိန်းမင်းစက်မှုလုပ်ငန်းအဖွဲ့ [illegible] သည် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ မြေကိုငှားရမ်း လုပ်ကိုင် [illegible] မြေပိုင်ရှင်ဖြစ်သူလယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တာဝန်ရှိသူ [illegible] ဆွေးနွေးရန် လိုပါကြောင်း၊ မူရင်းမြေပိုင်ရှင် မပါဘဲခွင့်ပြုပေး၍ မရကြောင်း၊ ကုမ္ပဏီ [illegible] သော်လည်း နောက်ထပ် နှစ် (၃၀) ခွင့်ပြုချက်ရထားပြီး ဆောင်ရွက်နေသည် မှာ [illegible] စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ခွင့်ပြုပေးထားကြောင်း၊ ကုမ္ပဏီအနေဖြင့် [illegible] ထိလုပ်ငန်း ဆောင်ရွက်နိုင်သော်လည်း သက်တမ်းထပ်တိုးလိုခြင်းကို အဆိုပါဝန်ကြီးဌာန ၂၀၄၂ [illegible] ဖြင့် မည်သည့်အတွက်ကြောင့် သဘောတူသည်ကိုသိရှိရန် လိုအပ်ကြောင်း၊ သို့ဖြစ်ပါ၍ မူရင်း မြေပိုင်ရှင်ဖြစ်သော လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တာဝန်ရှိသူ တက်ရောက် ရှင်းလင်းမှသာ မိမိတို့အနေဖြင့် ခွင့်ပြုသင့်-မပြုသင့်ကို ဆုံးဖြတ်နိုင်မည်ဖြစ်ကြောင်း ရှင်းလင်း ဆွေးနွေးပါသည်။

ကော်မရှင်အစည်းအဝေးမှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် သိန်းမင်းစက်မှုလုပ်ငန်းအဖွဲ့ ကုမ္ပဏီလီမိတက် (Thein Min Industry Group Co., Ltd.)တည်ထောင်ကာဂွမ်းကပ် မွေ့ယာနှင့် ဂွမ်းကပ်စောင်များထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ နောက်တစ်ကြိမ် ကျင်းပမည့် အစည်းအဝေးတွင် ဌာနဆိုင်ရာ တာဝန်ရှိသူ မှ ရှင်းလင်းတင်ပြစေရန် ဆုံးဖြတ်ပါသည်။

၈။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါး လုပ်ငန်းပိုင် အမှတ် (၁) ပလတ်စတစ် စက်ရုံ (ရန်ကုန်)တွင် နိုင်ငံတကာ အဆင့်မီ Plastic Shopping Bag အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း၊ အမှတ် (၁) ပလတ်စတစ် စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ (မှော်ဘီ) တွင် နိုင်ငံတကာ အဆင့်မီ Plastic Shopping Bag အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းနှင့် အမှတ်(၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း)တွင် PVC Pipe အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းတို့ကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြ လာခြင်း ကိစ္စ

ကော်မရှင်တွဲဖက် အတွင်းရေးမှူး ဒေါ်မြသူဇာက အမှာစာပါ အကြောင်းအရာအား ဖော်ပြလျက် အဓိကအချက်များကို ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ မန်နေးဂျင်းဒါရိုက်တာ ဦးအောင်မြတ်က ရင်းနှီးမြှုပ်နှံမည့် လုပ်ငန်းအခြေအနေများ နှင့် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို Power Point ဖြင့်ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က စက်ရုံအခြေအနေများ [illegible] ရာ စက်မှုဝန်ကြီးဌာနမှ တာဝန်ရှိသူက ပလတ်စတစ်စက်ရုံ ရန်ကုန်၊ မရမ်းကုန်း၊ မြောက်ဥက္ကလာ တွင်ရှိကြောင်း၊ ပလတ်စတစ်စက်ရုံ (၃) ရုံလုံးအား ၂၀၁၂ခုနှစ် ဇူလိုင်လ ၁ ရက်နေ့မှ ပလတ်စတစ် နှင့်ဆိုင်သောလုပ်ငန်းအား စပြီးငှားရမ်းခဲ့ကြောင်း၊ ပလတ်စတစ်စက်ရုံမှာ မူလက မြောက်ဥက္ကလာ တွင်ရှိကြောင်း၊ ပလတ်စတစ်၊ သားရေတုနှင့် ဘိလပ်မြေအိတ်ခွံများကိုအဓိကထုတ်လုပ်ကြောင်း၊ ၂၀၁၄ ခုနှစ်တွင် ငှားရမ်းသက်တမ်း ၂၅+၅+၅ နှင့်အစိုးရအဖွဲ့သို့တင်ပြခဲ့ရာ (၃) ရုံစလုံး ခွင့်ပြုချက် ရခဲ့ကြောင်း၊ မနှစ်က ကော်မရှင်သို့တင်ပြခဲ့ရာ နေရာမတူ၍ (၁)ရုံစီခွဲပြီးတင်ပြရန် ညွှန်ကြားခဲ့ ကြောင်း၊ လက်ရှိတွင် ဆက်လက်ထုတ်လုပ်မည့် ပစ္စည်းများရှိကြောင်း၊ ဝန်ကြီးဌာနပိုင် စက်များမှာ ဟောင်းပြီး မရှိတော့ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က လုပ်ငန်း စတင်ခဲ့သည့်အချိန်နှင့် စက်မှုဝန်ကြီးဌာနမှ ၂၅+၅+၅ ဖြင့်ထုတ်လုပ်ခဲ့ပြီး နောက်ထပ်ဆောင်ရွက်မည့်လုပ်ငန်း ရှိ-မရှိ မေးမြန်းရာ ကုမ္ပဏီက Shopping Bag မှာ ယခုမှ ထုတ်လုပ်ခြင်းဖြစ်ကြောင်း၊ ယခင်က ဘိလပ်မြေ အိတ်ထုတ်လုပ်ခဲ့ပြီး ခေတ်နှင့် မလျော်ညီသည့်အတွက် ဌာနမှလေလံပစ်ခဲ့ကြောင်း၊ ၂၀၁၃ ခုနှစ်တွင် စက်ပစ္စည်းများ Import လုပ်ပြီးShopping Bag အသစ်များကို စထုတ်နေပြီဖြစ်ကြောင်း၊ မရမ်းကုန်းတွင် PVC ပိုက်ထုတ်လုပ်မည့် စက်ရုံရှိကြောင်း၊ လယ်ယာစိုက်ပျိုးရေးလုပ်ငန်းအတွက် ယခုလည်း ဆက်ပြီး ထုတ်လုပ်နေကြောင်း၊ ဝန်ကြီးဌာနနှင့် စာချုပ်ချုပ်စဉ်က ၂၅+၅+၅ နှင့် ငှားရမ်း ခဲ့ကြောင်း၊ ယခင်က နှစ်အနည်းငယ်ဖြင့်ချုပ်ဆိုခဲ့၍ ကော်မရှင်သို့မတင်ပြခဲ့ကြောင်း ရှင်းလင်းတင်ပြ ပါသည်။

ဆက်လက်၍ ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က လုပ်ငန်းစတင်စဉ် က မည်သည့်အတွက်ကြောင့် ကော်မရှင် မတင်သည်ကို မေးမြန်းရာ ကုမ္ပဏီမှတာဝန်ရှိသူက ၂၀၁၄ ခုနှစ်တွင် နိုင်ငံပိုင်စက်ရုံများ ကော်မရှင်သို့ တင်ပြရမည်ဆို၍ ကော်မရှင်သို့တင်ပြခြင်းဖြစ်ကြောင်း၊ မိမိတို့အနေဖြင့် ထိုစဉ်က ဗဟုသုတနည်းပါးမှုနှင့် ယခုအခါ ကော်မရှင် တင်ပါက အခွန် ကင်းလွတ်ခွင့်နှင့် အခြားအခွင့်အရေးများ ရရှိသည်ကို သိရှိရသောကြောင့် တင်ပြရခြင်း ဖြစ်ပါ ကြောင်း ရှင်းလင်းတင်ပြပါ သည်။

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က စက်ပစ္စည်းစာရင်းတွင် ယခင် သွင်းပြီးသော စက်ပစ္စည်းများ ပါ-မပါ နှင့် စက်ပစ္စည်း အသစ်နှင့်အဟောင်း ခွဲပေးရန် လိုအပ်မည်ဖြစ် ကြောင်း ဆွေးနွေး ပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့်က ရန်ကုန်စက်ရုံတွင် စက်အဟောင်းမရှိဘဲ အသစ်တင်သွင်းမည့် စက်ပစ္စည်းစာရင်းကို တင်ပြထားပါကြောင်း၊ မှော်ဘီစက်ရုံတွင် စက်ပစ္စည်းအဟောင်းစာရင်းနှင့် အသစ် တင်သွင်းမည့်စာရင်းကို သီးခြား တင်ပြထားပါကြောင်း၊ မရမ်းကုန်းစက်ရုံမှာ စက်ပစ္စည်းအသစ် မတင်သွင်းဘဲ မူလစက်ပစ္စည်းများကိုသာ အသုံးပြုသွားမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က လုပ်ငန်းသဘောအရ မူလ ထုတ်လုပ်သည့်ပစ္စည်းကို တိုးမြှင့်ထုတ်လုပ်ခြင်း၊ ပြောင်းလဲထုတ်လုပ်ခြင်း ဖြစ်သည့်အတွက် လုပ်ငန်းကို ခွင့်ပြုပေးရန် ခက်ခဲမှုမရှိပါကြောင်း၊ သို့ရာတွင် ၂၀၁၃ ခုနှစ်မှ ၂၀၁၅ ခုနှစ်အထိ တင်သွင်းခဲ့သော စက်ပစ္စည်းများအနေဖြင့် အခွန်ဆောင်ပြီးဖြစ်ရန်လိုအပ်ကြောင်း ၊ ကော်မရှင်အနေဖြင့် Permit ပေးလိုက်လျှင် အခွန်ကင်းလွတ်ခွင့်ရမည်ဖြစ်ကြောင်း၊ သက်တမ်းနှင့်စပ်လျဉ်း၍ ယခင်(၃၅) နှစ် ခွင့်ပြုခဲ့သည့်အတိုင်း မိမိတို့အနေဖြင့်လည်း (၃၅)နှစ် ခွင့်ပြုပြီး သက်တမ်းကုန်မှသာ သက်ဆိုင်ရာ ဝန်ကြီးဌာနမှ ပြန်လည်တင်ပြခြင်းမှာ ပိုမိုဆီလျော်မှုရှိမည်ဖြစ်ကြောင်းနှင့် စက်ပစ္စည်း စာရင်းအနေဖြင့်လည်း သွင်းပြီး/မသွင်းပြီး တန်ဖိုးအား သေချာစွာ ခွဲခြားပေးရန် လိုအပ်ကြောင်း ဆွေးနွေး ပြောကြားပါသည်။

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်မှ ပလတ်စတစ်စက်ရုံခွဲ (မရမ်းကုန်း) နှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုတန်ဖိုးမှာ ကျပ်သန်း(၇၀) သာရှိရာ မည်သည့်အတွက်ကြောင့် သက်တမ်း(၃၅)နှစ်ပေးရသည်ကို သိလိုကြောင်း မေးမြန်းရာ စက်မှုဝန်ကြီးဌာနမှ တာဝန်ရှိသူမှ ဝန်ကြီးဌာနအနေဖြင့် တွက်ခြေမကိုက်ခြင်း၊ ဈေးကွက်ရှာဖွေနိုင်မှုအားနည်းခြင်း၊ ဝန်ထမ်းများ၏ လစာ၊ ပြင်ဆင်စရိတ် တို့မှာ ကြီးမြင့်ခြင်းတို့ကြောင့် နှစ်ရှည်ငှားရမ်းရခြင်းဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ဆက်လက်၍ ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က နှစ်စဉ် ငှားရမ်းကာလမှာ မည်မျှရသည်ကို သိလိုကြောင်း မေးမြန်းရာ စက်မှုဝန်ကြီးဌာနမှ တာဝန်ရှိသူမှ ကျပ် (၆၁.၂) သန်း ရရှိကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က နှစ်ရှည်ငှားရမ်းခြင်းဖြစ်သဖြင့် ရင်းနှီးမြှုပ်နှံမှု အား ယခုထက်ပို၍ များစေချင်ကြောင်း၊ မြေငှားရမ်းကာလနှင့် ပတ်သက်၍ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး၏ ဆုံးဖြတ်ချက်အတိုင်းသာ ဆက်လက် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက ပလတ်စတစ်စက်ရုံ(ရန်ကုန်)တွင် ကော်မရှင် ခွင့်ပြုမိန့်ဖြင့် ရတနာသိင်္ဂီကုမ္ပဏီကို ငှားရမ်းထားသည့်မြေ ပါရှိရာ အဆိုပါနေရာကို ပြန်လျှော့ပေးရန် လိုမည်ဖြစ်ကြောင်း ဆွေးနွေး ပြောကြားရာ ကုမ္ပဏီမှ တာဝန်ရှိသူက ရတနာသိင်္ဂီ ကုမ္ပဏီ

နှင့်စပ်လျဉ်း၍ လွန်ခဲ့သော (၁၅)နှစ်နှစ်(၂၀) ခန့်ကပင် မြေဧက (၉.၈၇၃) ဧက ရှိသည့်အနက် (၀.၇၅၆) ဧကကို ငှား ရမ်းထားခြင်းဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့်မှ မြေကိုပြန်နှုတ်ပါက စီးပွားရေး တွက်ခြေကိုက်မှုအခြေအနေများကို ပြန်တွက်ရန် လိုအပ်မည်ဖြစ် ကြောင်း ရှင်းလင်းတင်ပြရာ ကော်မရှင်ဥက္ကဋ္ဌက ပြန်လည်ပြင်ဆင်၍ တင်ပြရန်လိုကြောင်း ပြောကြားပါသည်။

ကော်မရှင်အဖွဲ့ဝင် ဦးဝင်းခိုင်က ထုတ်လုပ်မည့် ပလတ်စတစ်များမှာ Fully Biodegradable ဟုတ်-မဟုတ် မေးမြန်းပြီး ကုမ္ပဏီမှ Fully Biodegradable ဖြစ်ကြောင်းနှင့်နှစ်နှစ်ကြာပါက အလိုအလျောက် ပျက်စီးပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အဖွဲ့ဝင် ဦးညွန့်တင်က ပလတ်စတစ်များမှာ ပြန်လည်အသုံးပြု၍ ရ-မရ နှင့် အသုံးပြု၍ရပါက Recycle လုပ်ရန်၊ Recollect လုပ်ရန် မည်သို့စီစဉ်ထားသည်ကိုမေးမြန်းရာ ကုမ္ပဏီက စည်ပင်သာယာရေးကော်မတီနှင့် ပူးပေါင်း၍ Recollect ပြန်လုပ်ရန် စီစဉ်ထားကြောင်း၊ CSR 2% အား အခြားနေရာတွင်အသုံးမပြုဘဲ ဤသို့ Recycle ပြုလုပ်ရာနေရာတွင် အသုံးပြုသင့်ကြောင်း၊ ရပ်ကွက်ထဲတွင်ဖြစ်၍ အနံ့၊အသံ ထွက်ရှိမှုရှိ/မရှိ နှင့် မီးဘေးအန္တရာယ်နှင့်စပ်လျဉ်း၍ မေးမြန်းရာ ကုမ္ပဏီ၏တာဝန်ရှိသူက အနံ့၊ အသံ ထွက်ရှိမှုမရှိကြောင်းနှင့် မီးဘေးအန္တရာယ်နှင့် စပ်လျဉ်း၍ အထူးဂရုပြု လုပ်ဆောင်လျက်ရှိပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က မြေငှားသည့်ကိစ္စနှင့်ပတ်သက်၍ အချက်အလက်များ ပြည့်စုံစွာ ပြန်လည်ပြုစုတင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကော်မရှင်အစည်းအဝေးမှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-

(က) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင်၊ အမှတ် (၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)တွင် နိုင်ငံတကာ အဆင့်မီ Plastic Shopping Bag အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ရတနာသိဂီကုမ္ပဏီသို့ ငှားရမ်းထားသည့် မြေ ၀.၇၅၆ဧကအား ချန်လှပ်၍ ပြန်လည်ပြင်ဆင်တင်ပြရန်။

(ခ) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင်၊ အမှတ် (၁) ပလတ်စတစ် စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ (မှော်ဘီ) တွင် နိုင်ငံတကာ အဆင့်မီ Plastic Shopping Bag အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း နှင့်စပ်လျဉ်း၍ လက်ရှိတပ်ဆင်ထားသည့် စက်ပစ္စည်းများနှင့် ထပ်မံတင်သွင်းမည့် စက်ပစ္စည်းစာရင်းကို ပြုစု၍ ပြန်လည်တင်ပြရန်။

(ဂ) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင်၊ အမှတ်(၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း)တွင် PVC Pipe အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး

ဆောင်းချခြင်းလုပ်ငန်းတို့နှင့် စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုပမာဏနည်းပါးခြင်း၊ လူနေရပ်ကွက်အတွင်း တည်ရှိသဖြင့် ကွင်းဆင်းစစ်ဆေးပြီးမှသာ ပြန်လည်တင်ပြရန်။

၉။ Thu Kha Yadanar Co., Ltd.မှ ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ လမ်းမတော်မြို့နယ်၊ မင်းရဲကျော်စွာလမ်း၊ အမှတ်(၂၉)၊ စိန့်ဂျွန်းအုပ်စုသိုလှောင်ရုံရှိ မြေ(၄.၉၈)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စ

ကော်မရှင်တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက အမှာစာပါ အကြောင်းအရာအား ဖော်ပြလျှက် အဓိကအချက်များကို ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ တာဝန်ရှိသူက ရင်းနှီးမြှုပ်နှံမည့် လုပ်ငန်းအခြေအနေများနှင့် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို Power Point ဖြင့်ရှင်းလင်းတင်ပြပါသည်။

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ ညွှန်ကြားရေးမှူး ဦးစိုးလွင်က ၎င်းစီမံကိန်းမှာ ရွှေတိဂုံဘုရား ကန့်သတ်နယ်မြေအတွင်းတွင် တည်ရှိပြီး ကန့်သတ်ထားသည့် ပင်လယ်ရေ မျက်နှာပြင်အထက် အမြင့်ပေ ၁၉၀ ထက်ကျော်လွန်မှုမရှိပါကြောင်း ၊ မီးရထားလမ်း မှ ပေ ၅၀ အကွာ ဖြစ်ရမည်ဟုသတ်မှတ်ထားရာ ပေ ၇၀ အကွာဖြစ်သဖြင့် သတ်မှတ်မှုနှင့် ကိုက်ညီပါကြောင်း၊ floor to floor အမြင့်မှာ ၁၀ ပေ ၆ လက်မ အနဲဆုံးရှိရမည်ဖြစ်ပါကြောင်း၊ အခန်းအရေအတွက် အနေဖြင့် ၇၃၃ ခန်းရှိပြီး ကားအစီးရေ ၈၈၀ Parking ထိုးနိုင်မည်ဖြစ်ရာ သတ်မှတ်ချက်နှင့် ကိုက်ညီမှုရှိပါကြောင်း ၊ FAR 4.81 ရှိပါကြောင်း ၊ စီမံကိန်းဝင်းအတွင်းတွင် ပေ ၂၀ အကျယ်ရှိ မီးသတ်ကားဝင်နိုင်ရန် ပတ်လမ်း ထားရှိမည်ဖြစ်ပါကြောင်း၊ Detailed Plan ပြန်တင်ပါက ၁၄ ထပ်ထက် ကျော်၍ မရနိုင်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးဇေယျာအောင်က ၎င်းစီမံကိန်းမှာ Dagon City စီမံကိန်းအား ရပ်ဆိုင်းလိုက်၍ အစိုးရမှ အစားထိုးပေးသောမြေဖြစ်ပါကြောင်း၊ ယခင်က စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနပိုင်မြေဖြစ်ပြီး ကော်မရှင်နှင့် ညှိနှိုင်းချက်အရ ပြည်ထဲရေးဝန်ကြီးဌာနမှ ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ ပြန်လည်လွှဲပြောင်းပေးခဲ့သော မြေနေရာ ဖြစ်ပါကြောင်း၊ အင်ဂျင်နီယာကောင်စီ၏ ဆောက်လက်စ အဆောက်အဦရှိကြောင်း၊ Dagon City စီမံကိန်းတွင်ပါဝင်သော အခြားကုမ္ပဏီတစ်ခုဖြစ်သည့် Adventure Land နှင့် တစ်ဝက်စီခွဲ၍ ပေးထားခြင်းဖြစ်ပါကြောင်း၊ Dagon City စီမံကိန်းတွင် ကုမ္ပဏီတစ်ခုနှင့်တစ်ခုမညှိဘဲ ခွင့်ပြုခဲ့ရာ မြေပြုပြင်သည့်အခါ ကုမ္ပဏီတစ်ခုချင်းအလိုက် ပြဿနာမရှိသော်လည်း ကုမ္ပဏီ(၂) ခုပေါင်းလိုက်သည့်အခါ ပြဿနာ ဖြစ်သည်ကို ကြုံခဲ့ရပြီးဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရအနေဖြင့် ရင်းနှီးမြှုပ်နှံသူများ နစ်နာမှုမရှိစေရန် အစားထိုးပေးခြင်းဖြစ်ပါကြောင်း၊ အချင်းချင်းမထိခိုက်စေရန်အတွက် လိုအပ်သကဲ့သို့

| ဆုံးဖြတ်ချက်များ | ဆောင်ရွက်ရန် |
|---|---|
| ၁၄။ အစည်းအဝေးမှအောက်ဖော်ပြပါတို့ကိုဆုံးဖြတ်ပါသည် - | |
| (က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် C.K Frozen Foods Yangon Company Limited မှ Normal စနစ်ဖြင့် ငါး၊ ပုစွန်နှင့် ငါးခြောက် တို့ကို လည်းကောင်း၊ Contract Processing စနစ်ဖြင့် ငါးကိုလည်းကောင်း ပြုပြင်အေးခဲ ထုပ်ပိုးပြီး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (ခ) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Japfa Comfeed Myanmar Pte., Ltd. မှ တိရစ္ဆာန်အစာ ထုတ်လုပ်ခြင်း နှင့် ရောင်းဝယ်ဖြန့်ဖြူးခြင်း လုပ်ငန်းအား လုပ်ငန်းတိုးချဲ့သည့် အနေဖြင့် ဆောင်ရွက်ရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (ဂ) အော်ရီဂျင်နယ်ဂရု(ပ်) ကုမ္ပဏီလီမိတက်မှ Precast Concrete Product ထုတ်လုပ်မှုလုပ်ငန်းအား နောက်တစ်ကြိမ်ကျင်းပမည့် ကော်မရှင်အစည်းအဝေးတွင် ထုတ်လုပ်မည့်ကုန်ပစ္စည်း အရည်အသွေး စံချိန် စံညွှန်းနှင့် ပတ်သက်၍ ဌာနဆိုင်ရာ တာဝန်ရှိသူမှ ရှင်းလင်းတင်ပြစေရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (ဃ) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် သိန်းမင်းစက်မှုလုပ်ငန်း အဖွဲ့ ကုမ္ပဏီလီမိတက် (Thein Min Industry Group Co., Ltd.)တည်ထောင်ကာ ဂွမ်းကပ် မွေ့ယာနှင့် ဂွမ်းကပ်စောင်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ နောက်တစ်ကြိမ် ကျင်းပမည့် အစည်းအဝေးတွင် ဌာနဆိုင်ရာ တာဝန်ရှိသူမှ ရှင်းလင်းတင်ပြစေရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (င) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဖြင့် သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် နှင့်စပ်လျဉ်း၍ အောက်ပါ အတိုင်းဆုံးဖြတ်ပါသည်-<br>(၁) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင်၊ အမှတ် (၁) | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |

| ဆုံးဖြတ်ချက်များ | ဆောင်ရွက်ရန် |
|---|---|
| ပလတ်စတစ်စက်ရုံ (ရန်ကုန်)တွင် နိုင်ငံတကာ အဆင့်မီ Plastic Shopping Bag အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းနှင့်စပ်လျဉ်း၍ ရတနာသိင်္ဂီကုမ္ပဏီသို့ ငှားရမ်းထားသည့် မြေ ၀.၇၁၆ဧကအား ချန်လှပ် ၍ ပြန်လည်ပြင်ဆင်တင်ပြရန်။ | |
| (၂) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင်၊ အမှတ် (၁) ပလတ်စတစ် စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ (မှော်ဘီ) တွင် နိုင်ငံတကာ အဆင့်မီ Plastic Shopping Bag အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း နှင့်စပ်လျဉ်း၍ လက်ရှိတပ်ဆင်ထားသည့် စက်ပစ္စည်းများနှင့် ထပ်မံ တင်သွင်းမည့် စက်ပစ္စည်းစာရင်းကို ပြုစု၍ ပြန်လည် တင်ပြရန်။ | |
| (၃) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင်၊ အမှတ်(၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း) တွင် PVC Pipe အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းတို့နှင့် စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှု ပမာဏ နည်းပါးခြင်း၊ လူနေရပ်ကွက်အတွင်း တည်ရှိသဖြင့် ကွင်းဆင်း စစ်ဆေးပြီးမှသာ ပြန်လည်တင်ပြရန်။ | |
| (စ) Thu Kha Yadanar Co., Ltd.မှ B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ အထပ်(၁၄)ထပ်နှင့် အခန်း(၇၃၃)ခန်းပါ Residence (၇)လုံးနှင့် Club House Building (၁)လုံး တည်ဆောက်၍ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာနှင့် ဆက်စပ်လျှက်ရှိသော Thu Kha Yadanar Co., Ltd.နှင့် Adventure Myanmar Tours & Incentive ကုမ္ပဏီနှစ်ခုတို့မှ ဆောင်ရွက်မည့် Layout Plan Design တင်ပြလာပါက ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ ကော်မရှင်ရုံး |
| (ဆ) Ayeyarwaddy Development Public Co., Ltd. မှ | မြန်မာနိုင်ငံ |

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့**

**မြေပြင်ကွင်းဆင်းစစ်ဆေးချက်အစီရင်ခံစာ**

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၆ ရက်

**နိဒါန်း**

၁။ သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါး လုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း ၂ ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ် ၂၉/ဘီ အမှတ် (၁) ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း) ရှိ မြေနှင့် ယင်း မြေပေါ်ရှိ အဆောက်အဦနှင့် ရုံးသုံး ပစ္စည်းများအား ငှားရမ်း၍ PVC Pipe အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာပါသဖြင့် ၂၀၁၆ ခုနှစ် မတ်လ ၄ ရက်နေ့တွင် ကျင်းပသည့် ကော်မရှင်၏ ၈/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်မည့် တည်နေရာနှင့် အဆောက်အဦ တို့အား ရင်းနှီးမြှုပ်နှံမှု ပမာဏ နည်းပါးခြင်းနှင့် အဆိုပြုလုပ်ငန်းနေရာမှာ လူနေရပ်ကွက်အတွင်း တည်ရှိသဖြင့် ကွင်းဆင်း စစ်ဆေးရန် ဆုံးဖြတ်ခဲ့ပါသဖြင့် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၂ မှ ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့် ဦးဆောင်၍ မြန်မာ့ဆေးဝါးလုပ်ငန်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနနှင့် အဆောက်အဦ ဦးစီးဌာနတို့မှ အဖွဲ့ဝင်များ ပါဝင်သည့် အဖွဲ့သည် ၁၀-၃-၂၀၁၆ ရက်နေ့တွင် ကွင်းဆင်း စစ်ဆေးမှုများ ပြုလုပ်ခဲ့ပါသည်။

**ရည်ရွယ်ချက်**

၂။ ကွင်းဆင်းစစ်ဆေးရေးအဖွဲ့အနေဖြင့် အောက်ပါအချက်အလက်များပေါ် အခြေခံ၍ စစ်ဆေးမှု များ ပြုလုပ်ခဲ့ပါသည်။

(က) လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်။

(ခ) စက်ရုံ ပတ်ဝန်းကျင်၏ အခြေအနေ။

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် မြေနေရာနှင့် အဆောက်အဦပိုင်းခြား ဆောင်ရွက်ထားမှု အခြေအနေ။

(ဃ) အခြားလိုအပ်သော အချက်များကိုပါ ထည့်သွင်းစစ်ဆေးရန်။

**စစ်ဆေးရေးအဖွဲ့**

၃။ ကွင်းဆင်းစစ်ဆေးရေးအဖွဲ့တွင် အောက်ပါပုဂ္ဂိုလ်များပါဝင်ပြီး (၁၀-၃-၂၀၁၆) ရက်နေ့တွင် သွားရောက် စစ်ဆေးခဲ့ကြပါသည်-

(က) ဒေါ်စန်းစန်းမြင့် — အဖွဲ့ ခေါင်းဆောင်
ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှု ဌာနခွဲ(၂)
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

(ခ) ဒေါက်တာညီညီမောင် — အဖွဲ့ဝင်
ဒုတိယညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှု ဌာနခွဲ(၂)
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

(ဂ) ဦးမြင့်သိန်း — အဖွဲ့ဝင်
မန်နေဂျာ
မြန်မာ့ဆေးဝါးလုပ်ငန်း

(ဃ) ဦးတင်စန်းမင်း — အဖွဲ့ဝင်
ဦးစီးအရာရှိ
ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန

(င) ဒေါ်ဝင့်မို့အောင် — အဖွဲ့ဝင်
ဦးစီးအရာရှိ
အဆောက်အဦ ဦးစီးဌာန

(စ) ဒေါ်ကေသီဆွေ — အဖွဲ့ဝင်
ဒုတိယဦးစီးမှူး
ရင်းနှီးမြှုပ်နှံမှု ဌာနခွဲ(၂)
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

**လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်**

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်သည် PVC Pipe အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်မည် ဖြစ်ပါသည်။ တစ်နှစ်လျှင် PVC Resin ကုန်ကြမ်း တန် ၈,၃၀၀ အသုံးပြုပြီး ကုန်ချော တန် ၇၀၅၅ တန် ပြန်လည် ထွက်ရှိပါကြောင်း၊ ထုတ်လုပ်မည့် PVC Pipe များအား ပြည်တွင်း ၄၄% နှင့် ပြည်ပသို့ ၅၆% တင်ပို့ ရောင်းချမည် ဖြစ်ကြောင်း၊ ထုတ်လုပ်မည့် စက်များမှာ capacity ပြည့်မီခြင်း မရှိ၍ ပြည်တွင်းမှ စက်အသစ်များ ထပ်မံ ဝယ်ယူ တပ်ဆင်မည် ဖြစ်ကြောင်း၊ စက်မှုဝန်ကြီးဌာန၏ အဆောက်အဦများသည် သုံးစွဲနိုင်မည့် အခြေအနေတွင် မရှိသဖြင့် အကြီးစားပြုပြင်ရန် လိုအပ်ကြောင်းနှင့် အဆောက်အဦ ပြုပြင် မွမ်းမံရာတွင် သုံးစွဲမည့် ကုန်ကျငွေအား ရင်းနှီးမြှုပ်နှံမှု ပမာဏတွင် ထည့်သွင်း ဖော်ပြ၍ ရင်းနှီးမြှုပ်နှံမှု ထပ်မံတိုးမြှင့် တင်ပြသွားမည် ဖြစ်ကြောင်း အဆိုပြုကုမ္ပဏီ၏ ဒါရိုက်တာ ဦးစိန်မင်းမှ ရှင်းလင်း တင်ပြပါသည်။ ကော်မရှင် ခွင့်ပြုမိန့် မရရှိသေးပါသဖြင့် ထုတ်လုပ်မှု ရပ်ဆိုင်း ထားကြောင်း၊ ကုန်ကြမ်းများအား ထိုင်းနိုင်ငံ၊ မလေးရှားနှင့် ဆော်ဒီအာရေဗျနိုင်ငံများမှ တင်သွင်းပြီး ထိုင်းနိုင်ငံမှ အများဆုံး မှာယူ တင်သွင်း ပါကြောင်း ရှင်းလင်း တင်ပြ ပါသည်။

**စက်ရုံပတ်ဝန်းကျင်အခြေအနေ**

၅။ အဆိုပါ စက်ရုံ၏အရှေ့မျက်နှာစာသည် လူနေရပ်ကွက်၊ အနောက်ဘက်၌ အမှတ် ၃ အကြီးစား စက်မှုလုပ်ငန်းပိုင် လည်ပတ်မှုရပ်ဆိုင်းထားသည့် ဆေးဝါးမ်းပတ်တီးစက်ရုံ၊ ဘယ်ဘက်၌ စက်မှု ဝန်ကြီးဌာနပိုင် ပြင်ထိန်း ဂိုဒေါင်နှင့် ညာဘက်၌ ပေါ်တော်မူဘုရားဝင်းတို့ ဖြစ်ပါသည်။ စက်ရုံ အတွင်းသို့ ဝင်ရောက်သည့် လမ်းမှာ ယခင်က လူနေ ထူထပ်ခြင်း မရှိသဖြင့် သွားလာရန် လွယ်ကူသော်လည်း ယခုအခါတွင် ၂၀ ပေ အကျယ်ရှိသည့် ကုန်တင်ကားများသာ ဝင်ရောက် ရန် အဆင်ပြေပါကြောင်း စက်မှုဝန်ကြီးဌာနမှ တာဝန်ရှိသူ မန်နေဂျာ ဦးမြင့်သိန်းမှ ရှင်းလင်း ပြောကြား ပါသည်။ အရေးပေါ် မီးဘေးအန္တရာယ်ဖြစ်ပေါ်လာပါက မီးသတ်ကားများ ဝင်ရောက်နိုင်သည့် အခြေအနေတွင် ရှိကြောင်း တွေ့ရှိရပါသည်။

**အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် မြေနေရာနှင့် အဆောက်အဦပိုင်းခြား ဆောင်ရွက်ထားမှု အခြေအနေ**

၆။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာအတွင်း အဆောက်အဦ ၁၃ လုံး ရှိပြီး အဆောက်အဦများ မှာ အမိုးများ ပောင်းနွမ်းနေခြင်း၊ သုံးစွဲရန် သင့်သည့်အခြေအနေတွင် မရှိခြင်း၊ exhaust fan များ တပ်ဆင်ရန် လိုအပ်ခြင်း၊ PVC Pipe ထုတ်လုပ်မည့် စက်ရုံအဆောက်အဦအား စစ်ဆေးရာတွင် တည်ဆောက် ပြီးစီးမှုကာလမှာ နှစ်ပေါင်း ၄၀ ကျော် ကြာမြင့်နေကြောင်း စိစစ်တွေ့ရှိရသဖြင့် စက်၊

ယာဉ် ယန္တရားများ အသစ်တပ်ဆင်ပြီး စက်ရုံလည်ပတ်မည် ဆိုပါက အဆိုပါ အဆောက်အဦအား စက်ရုံ အင်္ဂါရပ်နှင့် ညီညွတ်စွာဖြင့် ခိုင်ခံ့သပ်ရပ် ကောင်းမွန်စွာ တည်ဆောက်ပြုပြင်ပြီးမှသာ အသုံးပြုသင့်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

**အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် မြေနေရာသင့်မသင့်အခြေအနေ**

၇။ စက်ရုံမှာ လူနေရပ်ကွက်အတွင်း တည်ရှိသော်လည်း စက်ရုံအတွင်းသို့ လုပ်ငန်းသုံးယာဉ်များ ဝင်ရောက်နိုင်သည့် အခြေအနေတွင် ရှိပါသည်။ စက်ရုံအတွင်းသို့ ကုန်တင်ကုန်ချပြုလုပ်သည့် ယာဉ်များ တစ်နေ့လျှင် အသွားအပြန် ၄ ကြိမ်ခန့် ဝင်ထွက်သွားလာလျက်ရှိပါကြောင်း စိစစ်တွေ့ရှိရပါသည်။

**အခြားဆက်စပ်သောအခြေအနေများနှင့်အထွေထွေ**

၈။ စက်ရုံအနေဖြင့်လည်ပတ်ခြင်း မရှိသေးဘဲ စက်မှုဝန်ကြီးဌာနမှ စက်ဟောင်းများသာ ရှိပါသဖြင့် စက်အသစ်များ မတပ်ဆင်မီ အဆောက်အဦအတွင်း လေဝင်လေထွက် ကောင်းရန် ပြင်ဆင်ခြင်း၊ လေထုတ် ပန်ကာကြီးများ၊ လေအေးပေးစက်များ၊ ပန်ကာများ တပ်ဆင် ဆောင်ရွက်သွားရန် လိုအပ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

**ကွင်းဆင်းစစ်ဆေးမှုအပေါ် သုံးသပ်တင်ပြချက်**

၉။ သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း ၂ ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ် ၂၉/ဘီ အမှတ် (၁) ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း) ရှိ မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦနှင့် ရုံးသုံးပစ္စည်းများအား ငှားရမ်း၍ PVC Pipe အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သုံးသပ်ရပါသည် -

(က) လက်ရှိဆောင်ရွက်မည့် PVC Pipe များ ဆောင်ရွက်သည့် လုပ်ငန်းသည် အပူပေးပြီး ဆောင်ရွက်သည့်အတွက် စက်ရုံအတွင်း ခန့်ထားမည့် လုပ်သားများနှင့် ဘေးပတ်ဝန်းကျင်ရှိ နေထိုင်သည့် ပြည်သူလူထုများကို ကျန်းမာရေး ထိခိုက်မှု မရှိစေရန် အခိုးအငွေ့ထုတ်လွှတ်မှုကို အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များအတိုင်း ဆောင်ရွက်ရန် ကြိုတင်စီမံဆောင်ရွက်သင့်ခြင်း။

(ခ) စက်ပစ္စည်းအသစ်များ ထပ်မံတပ်ဆင်ရန် လိုအပ်ကြောင်း စိစစ်တွေ့ရှိရသဖြင့် ရင်းနှီးမြှုပ်နှံမှုနှင့် အခြားစီးပွားရေးဆိုင်ရာ တွက်ချက်မှုများ ပြင်ဆင်တင်ပြရန် လိုအပ်ခြင်း။

(ဂ) စက်ရုံဧရိယာအတွင်း၌ စက်ပစ္စည်းအဟောင်းများ၊ စွန့်ပစ်ပစ္စည်းများ စုပုံထားရှိခြင်း၊ အမှိုးများပေါက်ပြဲနေခြင်းများကို တွေ့ရှိရပါသည်။ လုပ်ငန်းဆောင်ရွက်ရာတွင် သန့်ရှင်းသပ်ရပ်စွာ ထားရှိမှသာ ဝန်ထမ်းများ စိတ်ကြည်လင်စွာ လုပ်ကိုင် ဆောင်ရွက်နိုင်မည် ဖြစ်သဖြင့် လုပ်ငန်းစတင်မလည်ပတ်မီ အဆောက်အဦအတွင်းနှင့် အပြင်အား ပြန်လည်ပြင်ဆင်၍ သန့်ရှင်းသပ်ရပ်စွာ ထားရှိရန် လိုအပ်ခြင်း။

(ဃ) ခွင့်ပြုမိန့်လျှောက်ထားသည့် စက်ရုံဝင်းအတွင်း ပုဂ္ဂလိက အဝတ်လျှော် အခြောက်ခံ လုပ်ငန်း ဆောင်ရွက်နေသည်ကို တွေ့ရှိရသဖြင့် အဆိုပါ လုပ်ငန်းအား စက်ရုံအတွင်း ဆောင်ရွက်ခွင့် မပြုရန်။

(င) လုပ်ငန်းခွင်သုံး safety ဝတ်စုံများ ဝတ်ဆင်ဆောင်ရွက်ရန်နှင့် ပစ္စည်းထားသိုသည့် ဂိုဒေါင်ထားသိုမှု စနစ်ကျရန်လိုခြင်း။

**ကွင်းဆင်းစစ်ဆေးတွေ့ရှိချက်များအပေါ် ကုမ္ပဏီမှ ရှင်းလင်းတင်ပြချက်**

၁၀။ သစ်လွင်အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ ကွင်းဆင်း စစ်ဆေးတွေ့ရှိချက်များ အပေါ် အောက်ပါအတိုင်း ပြင်ဆင် တင်ပြလာပါသည်-

(က) PVC Pipe ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ NeoTech Myanmar Co., Ltd. သို့ Environmental Impact Assessment (EIA) အစီရင်ခံစာ ရေးဆွဲ ဆောင်ရွက်မည် ဖြစ်ကြောင်း။

(ခ) စက်ရုံအတွင်းရှိ စက်မှုဝန်ကြီးဌာနပိုင် စက်နှင့်စက်ပစ္စည်းများအား ဝန်ကြီးဌာနသို့ ပြန်လည်အပ်နှံပြီးဖြစ်ပါကြောင်း၊ဝန်ကြီးဌာနမှလည်းဌာနအစီအစဉ်ဖြင့် ဖြုတ်သိမ်းခြင်း၊ လေလံတင်ရောင်းချမည် ဖြစ်ကြောင်း၊ ဖြုတ်သိမ်းပြီးသည့် စက်လိုင်းများ နေရာတွင် ကုမ္ပဏီမှ PVC Pipe ထုတ်လုပ်သည့် စက်သစ်များ တပ်ဆင်ရန်အတွက် ရင်းနှီးမြှုပ်နှံမှု ထပ်မံ တိုးမြှင့်ဆောင်ရွက်လျက်ပြည်တွင်းမှပင်ဝယ်ယူတပ်ဆင်မည်ဖြစ်ကြောင်း၊ ရင်းနှီးမြှုပ်နှံမှု ထပ်မံတိုးမြှင့်သည့်အတွက် စီးပွားရေး ဆိုင်ရာ တွက်ချက်မှုများအား ပြန်လည် တွက်ချက် ဆောင်ရွက်မည် ဖြစ်ကြောင်း။

(ဂ) စက်ရုံအတွင်း အပူငွေ့၊ အနံ့များ အနည်းဆုံးသို့ လျှော့ချနိုင်ရန်အတွက် စက်ရုံ အတွင်း Exhaust Fan များ တပ်ဆင်ခြင်း၊ လေဝင်လေထွက် ကောင်းမွန်စေရန်တို့အတွက် စီမံဆောင်ရွက်မည် ဖြစ်ကြောင်း၊ စက်ရုံပတ်ဝန်းကျင် သန့်ရှင်းသာယာလှပရေးနှင့် မီးဘေးအန္တရာယ် ကာကွယ်ရေး လက်ရှိမီးသတ်ရေကန်အား အဆင်သင့် ဖြစ်စေရန် အတွက်

စီစဉ် ဆောင်ရွက်မည် ဖြစ်ကြောင်းနှင့် မီးသတ်ဦးစီးဌာန၏ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း။

(ဃ) ကွင်းဆင်းစစ်ဆေးရေးအဖွဲ့မှ စစ်ဆေးတွေ့ရှိ ချက်များ အရ အဝတ်လျှော် အခြောက်ခံ လုပ်ငန်းအား ရင်းနေ့တွင်ပင် ဖြုတ်သိမ်း ရပ်ဆိုင်းပြီး ဖြစ်ပါကြောင်း ဓာတ်ပုံများနှင့် တကွ ရှင်းလင်းတင်ပြထားပါသည်။

| | | |
|---|---|---|
| ၁၆.၃.၂၀၁၆ | 16.3.2016 | |
| ဒေါ်စန်းစန်းမြင့် | ဒေါက်တာညီညီမောင် | ဦးမြင့်သိန်း |
| အဖွဲ့ခေါင်းဆောင် | အဖွဲ့ဝင် | အဖွဲ့ဝင် |
| ဒုတိယ ညွှန်ကြားရေးမှူး | ဒုတိယ ညွှန်ကြားရေးမှူး | မန်နေဂျာ |
| ရင်းနှီးမြှုပ်နှံမှု ဌာနခွဲ(၂) | ရင်းနှီးမြှုပ်နှံမှု ဌာနခွဲ(၂) | မြန်မာ့ဆေးဝါး |
| ရင်းနှီးမြှုပ်နှံမှုနှင့် | ရင်းနှီးမြှုပ်နှံမှုနှင့် | လုပ်ငန်း |
| ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန | ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန | |

| | | |
|---|---|---|
| | | 16/3/2016 |
| ဦးတင်ဆန်းမင်း | ဒေါ်ဝင့်မို့အောင် | ဒေါ်ကေသီဆွေ |
| အဖွဲ့ဝင် | အဖွဲ့ဝင် | အဖွဲ့ဝင် |
| ဦးစီးအရာရှိ | ဦးစီးအရာရှိ | ဒုတိယဦးစီးမှူး |
| ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန | အဆောက်အဦ ဦးစီးဌာန | ရင်းနှီးမြှုပ်နှံမှု ဌာနခွဲ(၂) |
| | | ရင်းနှီးမြှုပ်နှံမှုနှင့် |
| | | ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန |




ပင်မထုတ်လုပ်မည့် စက်ရုံအဆောက်အဦ



စက်ရုံအတွင်းရှိ မူလတပ်ဆင်ပြီး စက်ပစ္စည်းများ



စက်မှုဝန်ကြီးဌာနမှ ယခင်က လည်ပတ်လျက်ရှိသည့် PVC Pipe ထုတ်လုပ်သည့် စက်များ တပ်ဆင်ထားရှိမှု အခြေအနေ



ထုတ်လုပ်မည့် ပစ္စည်း နမူနာဓာတ်ပုံ




လက်ရှိကုန်ကြမ်းများထားသိုဆောင်ရွက်လျက်ရှိပုံ



စက်ရုံဝင်ပေါက်အကျယ် မြင်ကွင်း

M.510
16/3

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

စာအမှတ်၊ ၁၅၁၁/ စမ-၇(က) /၂၀၁၆ ( ၁၂၅ )

ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သစ်လွင်အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်( New General Industry Co., Ltd.) မှ စက်မှုဝန်ကြီးဌာန ၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် အမှတ်(၁)ပလတ်စတစ်စက်ရုံ(ရန်ကုန်) ၊စက်ရုံခွဲ(မရမ်းကုန်း)နှင့်စက်ရုံခွဲ (မှော်ဘီ)တို့တွင် လုပ်ငန်းဆောင်ရွက်မည့်အဆိုပြုချက်များနှင့်စပ်လျဉ်း၍ ကော်မရှင်အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ပြီးစီးမှုများ အား တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉-၃-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက-၃/မ-သစ်လွင်/၂၀၁၆(၃၇၄)

၁။ သစ်လွင်အထွေထွေစက်မှုလုပ်ငန်း (New General Industry Co., Ltd.) သည် စက်မှုဝန်ကြီးဌာန ၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် ၊ အမှတ်(၁)ပလတ်စတစ်စက်ရုံ(ရန်ကုန်) နှင့် စက်ရုံခွဲ(မှော်ဘီ)တို့တွင် နိုင်ငံတကာအဆင့်မီ Plastic Shopping Bag အမျိုးမျိုးထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းနှင့် စက်ရုံခွဲ(မရမ်းကုန်း)တွင် PVC Pipe အမျိုးမျိုးထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့် လုပ်ငန်းနှင့်ပတ်သက်၍ ၂၀၁၆ ခုနှစ် ၊ မတ်လ(၄)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈/၂၀၁၆)ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေး မှ ရည်ညွှန်းပါစာဖြင့် အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ပြီးပြန်လည်တင်ပြရန် အကြောင်းကြားလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈/၂၀၁၆) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ ဆောင်ရွက်ထားရှိမှုအခြေအနေအား အောက်ပါအတိုင်း တင်ပြအပ်ပါသည်-

(က) **အမှတ်(၁)ပလတ်စတစ်စက်ရုံ(ရန်ကုန်)နှင့်ပတ်သက်၍** စက်မှုဝန်ကြီးဌာန ၊ မြန်မာ့ဆေးဝါးလုပ်ငန်းမှ New General Industry Co., Ltd. သို့ ငှားရမ်း

သည့် မြေဧရိယာတွင် ရတနာသိင်္ဂီကုမ္ပဏီလီမိတက်သို့ ငှားရမ်းထားသည့် အအေးခန်းစက်ရုံမြေဧရိယာ(၀.၇၅၆)ဧကမှာပါ ဝင်လျက်ရှိပါသည်။ထို့ကြောင့် ရတနာသိင်္ဂီကုမ္ပဏီလီမိတက်သို့ ငှားရမ်းထားသည့် မြေဧရိယာ(၀.၇၅၆)ဧက ပါဝင်နေပါသဖြင့် ပင်မစက်ရုံဧရိယာ(၈.၄၅၆)ဧကမှ ချန်လှပ်ခွင့်ပြုပါရန်နှင့် ကျန်ရှိသည့် ပင်မစက်ရုံမြေ(၇.၇)ဧကနှင့် ခြင်နိုင်ဆေးဝင်းဝန်ထမ်းအိမ်ရာ (၁.၃၇၇)ဧက ၊ စုစုပေါင်း(၉.၀၇၇)ဧက ကို New General Trading Co., Ltd. သို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန်နှင့် ငှားရမ်းသည့်စက်ရုံမြေဧရိယာ သာ ပြောင်းလဲခြင်းဖြစ်ပြီး တစ်နှစ်ငှားရမ်းခနှုန်း ပြောင်းလဲခြင်းမရှိကြောင်း တင်ပြအပ်ပါသည်။ မြေဧရိယာ ပြောင်းလဲခြင်းနှင့်စပ်လျဉ်း၍ စက်ရုံငှားရမ်း ခြင်းသဘောတူစာချုပ် (မူကြမ်း) အပါအဝင် အခြားပြင်ဆင်ရန်လိုအပ်သည့် ပြင်ဆင်မှုများကိုလည်း ပြင်ဆင်ဆောင်ရွက်ထားရှိပါသည်။

New General Trading Industry Co., Ltd. သို့ငှားရမ်းထားသည့် အမှတ်(၁)ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏ တည်နေရာမှာ အမှတ်(၁၀၅/၁၁၁) သုမ္မောလမ်း၊(င)ရပ်ကွက် မြောက်ဥက္ကလာပမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး ဖြစ်ပါသည်။

ရတနာသိင်္ဂီကုမ္ပဏီ လီမိတက်သို့ ငှားရမ်းထားသည့် အမှတ်(၁)ပလတ်စတစ် စက်ရုံ(ရန်ကုန်)ပိုင်မြေ(၈.၄၅၆)တွင် အအေးခန်းစက်ရုံ(ဧရိယာ ၀.၇၅၆ ဧက) ၏တည်နေရာမှာ အမှတ်(၁၀၅)အမရာလမ်း၊(င)ရပ်ကွက်၊ မြောက်ဥက္ကလာပ မြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီးဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

( ခ ) **အမှတ်(၁)ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏စက်ရုံခွဲ(မှော်ဘီ)တွင်ဆောင်ရွက်မည့်** လုပ်ငန်းနှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုတန်ဖိုးတွင် မြေငှားရမ်းခ (တစ်နှစ်) တန်ဖိုးနှင့် လက်ရှိ တပ်ဆင်ထားသည့် စက်နှင့်စက်ပစ္စည်းတန်ဖိုး ၊ ပြည်ပမှ ထပ်မံတင်သွင်းမည့် စက်နှင့်စက်ပစ္စည်းတန်ဖိုးတို့အား သီးခြားစီခွဲ၍ ပြင်ဆင် တွက်ချက်ထားပါသည်။ (စက်နှင့်စက်ပစ္စည်းတန်ဖိုး စာရင်းနှင့် စီးပွားရေး ဆိုင်ရာတွက်ချက်မှုများအားပူးတွဲ ဖော်ပြအပ်ပါသည်)

(ဂ) စက်ရုံခွဲ (မရမ်းကုန်း) နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကွင်းဆင်းစစ်ဆေးရေးအဖွဲ့မှ(၁၀.၃.၂၀၁၆)ရက်နေ့တွင် စက်ရုံသို့ ကွင်းဆင်း စစ်ဆေးပြီးဖြစ်ကြောင်း သိရှိရခြင်းအားတင်ပြအပ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု တန်ဖိုးတွင်လည်း PVC Pipe ထုတ်လုပ်သည့် စက်နှင့် စက်ပစ္စည်းတန်ဖိုး ၊ မြေငှားရမ်းခ (၂)နှစ် တန်ဖိုးတို့အား ထပ်မံထည့်သွင်း၍ ပြင်ဆင်တွက်ချက် ထား ပါသည်။ ( PVC Pipe ထုတ်လုပ်သည့် စက်နှင့် စက်ပစ္စည်းတန်ဖိုး စာရင်း နှင့် စီးပွားရေးဆိုင်ရာတွက်ချက်မှုများအား ပူးတွဲ တင်ပြအပ်ပါသည်)

၃။ သို့ဖြစ်ပါ၍ သစ်လွင်အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်( New General Industry Co., Ltd.)မှ စက်မှုဝန်ကြီးဌာန၊မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် အမှတ်(၁) ပလတ်စတစ် စက်ရုံ(ရန်ကုန်) ၊ စက်ရုံခွဲ(မရမ်းကုန်း)နှင့် စက်ရုံခွဲ(မှော်ဘီ)တို့တွင် လုပ်ငန်းဆောင်ရွက်မည့် အဆိုပြုချက်များနှင့်စပ်လျဉ်း၍ ကော်မရှင်အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ပြီးစီးမှု များအား တင်ပြအပ်ပါသည်။

၄။ ဦးဆောင်ညွှန်ကြားရေးမှူး ၊ ပြည်ပခရီးသွားနေပါသဖြင့် အထွေထွေမန်နေဂျာ (စီမံရေး)မှ လက်မှတ်ရေးထိုးထားခြင်းဖြစ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
( ဒေါက်တာတိုး‌အောင် - အထွေထွေမန်နေဂျာ)

မိတ္တူကို

အထွေထွေမန်နေဂျာ ( ထုတ်လုပ်ရေး ၊ အုပ်ချုပ်ရေး)
သစ်လွင်အထွေထွေစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်
တာဝန်ခံ ၊ အမှတ်(၁)ပလတ်စတစ်စက်ရုံ(ရန်ကုန်)
မျှောစာတွဲ ၊

စက်မှုဝန်ကြီးဌာန
မြန်မာ့ဆေးဝါးလုပ်ငန်း
အမှတ်(၁)ပလတ်စတစ်စက်ရုံ(ရန်ကုန်)

စာအမှတ်၊ ၄၀၇/၄/အခ-၂(၂၂)/၂၀၁၆ (၃၄၀ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၁၅ ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆေးဝါးလုပ်ငန်း

အကြောင်းအရာ။ **အမှတ် (၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်) ၏ မြေနှင့် စပ်လျဉ်းသည့် ကိစ္စ လိပ်စာအမှန် ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ မြန်မာ့ဆေးဝါးလုပ်ငန်း၏ (၇. ၃. ၂၀၁၆) ရက်စွဲပါစာအမှတ်၊ ၁၅၁၁/စမ-၇(က)/၂၀၁၆(၄၁၈)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် ပတ်သက်၍ မြန်မာ့ဆေးဝါးလုပ်ငန်း၊ ကြီးကြပ်မှု အောက်ရှိ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် တည်ရှိသော အမှတ် (၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်) အား New General Trading Co., Ltd. သို့လည်းကောင်း၊ အမှတ် (၁) ပလတ်စတစ်စက်ရုံဝန်း အတွင်းရှိ အအေးခန်း စက်ရုံအား ရတနာသိင်္ဂီ ကုမ္ပဏီ လီမိတက်သို့ လည်းကောင်း၊ နှစ်ရှည် ငှားရမ်း ဆောင်ရွက်လျက် ရှိပါသည်။

၂။ အဆိုပါ ကုမ္ပဏီနှစ်ခုအား မြန်မာ့ဆေးဝါးလုပ်ငန်းမှ နှစ်ရှည် ငှားရမ်း ဆောင်ရွက်ခဲ့ရာတွင် မူလစက်ရုံ လိပ်စာဖြစ်သော အမှတ် (၁၀၅/၁၁၁)၊ သုဓမ္မာလမ်း၊ မြောက်ဥက္ကလာပမြို့နယ်ဖြင့် စာချုပ် ငှားရမ်းခဲ့ခြင်း ဖြစ်ပါသည်။ ယခုလက်ရှိ လိပ်စာအမှန် သိရှိရေး စိစစ်ခဲ့ရာတွင် New General Trading Co., Ltd. ငှားရမ်းထားသော လိပ်စာမှာ အမှတ် (၁၀၅/၁၁၁)၊ သုဓမ္မာလမ်း၊ (င) ရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ်ဖြစ်ပြီး ရတနာသိင်္ဂီ အအေးခန်း စက်ရုံအား ငှားရမ်းထားသော လိပ်စာမှာ အမှတ် (၁၀၅)၊ အမရာလမ်း၊ (င) ရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ် ဖြစ်ကြောင်း သိရှိရပါသည်။ ငှားရမ်းထားသော မြေမှာ စက်ရုံပိုင်မြေ (၈. ၄၅၆) ဧကအတွင်း ပါဝင်ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါ ကုမ္ပဏီ (၂) ခုအား ငှားရမ်းထားသော လိပ်စာအမှန်အား သိရှိနိုင်ပါရန်နှင့် လမ်းညွှန်မှု ပြုနိုင်ပါရန် တင်ပြ အပ်ပါသည်။

မြင့်သိန်း
နောက်ချန်ထာဝန်ခံ

<u>မိတ္တူကို</u>

အထွေထွေမန်နေဂျာ (စီမံရေး၊ အုပ်ချုပ်ရေး)၊ မြန်မာ့ဆေးဝါးလုပ်ငန်း
အမိကစာတွဲ။
မျှောစာတွဲ။
ရုံးလက်ခံ။

D:\Myat Lay\2016\Admin-7\Letter.pmd.

NGI
New General Industry Co., Ltd.
No.(151), 9th Floor, Tower (A), Corner of Bogyoke Aung San Road And
Wardan Street,(8) Ward, Lanmadaw Township, Yangon.Tel : 95-1-227757~60

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်။ NGI/MIC/002/2016

ရက်စွဲ။ ၂၀၁၆ ခုနှစ်၊မတ်လ (၁၁) ရက်

အကြောင်းအရာ။ ပလတ်စတစ်စက်ရုံခွဲ (မရမ်းကုန်း) တွင် PVC Pipe ထုတ်လုပ်မှုလုပ်ငန်းအတွက် ဆောင်ရွက်မည့်အစီအစဉ်တင်ပြခြင်း

၁။ အထက်ကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ အမှတ် (၁) ပလတ်စတစ်စက်ရုံ၊ စက်ရုံခွဲ (မရမ်းကုန်း) တွင် PVC Pipe ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုချက်ရရှိရေးဆောင်ရွက်ခြင်းနှင့်ပတ်သက်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ကွင်းဆင်းစစ်ဆေးရေးအဖွဲ့မှ (၁၀.၃.၂၀၁၆) ရက်နေ့တွင် ကွင်းဆင်းစစ်ဆေးဆောင်ရွက်ခဲ့ပါသည်။

၂။ ကွင်းဆင်းစစ်ဆေးမှုနှင့်ပတ်သက်၍ တွေ့ရှိချက်၊ လမ်းညွှန်ချက်များအပေါ် New General Industry Co.,Ltd မှ ဆက်လက်ဆောင်ရွက်မည့်လုပ်ငန်း အစီအမံများအား အောက်ပါအတိုင်း တင်ပြအစီရင်ခံအပ်ပါသည်။

(က) ပလတ်စတစ်စက်ရုံခွဲ (မရမ်းကုန်း) တွင် ရင်းနှီးမြှုပ်နှံမည့် Investment Plan အား ထပ်မံတိုးမြှင့်ရန်နှင့် PVC Pipe ထုတ်လုပ်ရန်စက်များဝယ်ယူရန် စိစစ်တွေ့ရှိချက်အရ ယခင်စက်မှုဝန်ကြီးဌာနပိုင် စက်နှင့်စက်ပစ္စည်းများအား စက်မှုဝန်ကြီးဌာန၊ ဆေးဝါးလုပ်ငန်းသို့ ပြန်လည်အပ်နှံပြီးဖြစ်ပါသည်။ စက်မှုဝန်ကြီးဌာနမှလည်း ဌာန၏အစီအစဉ် ဖြင့်ဖြုတ်သိမ်းခြင်း၊ လေလံတင်ရောင်းချခြင်းများဆောင်ရွက်မည်ဖြစ်ပါသည်။ ဖြုတ်သိမ်းပြီးသည့်စက်လိုင်းနေရာများတွင် ကုမ္ပဏီမှ PVC Pipe ထုတ်လုပ်သည့်စက်များဖြစ်သည့် Pipe Extrusion Machine & Accessories (3) Sets အားပြည်တွင်းကျပ်ငွေဖြင့်ဝယ်ယူမည်ဖြစ်ပါသည်။ ဝယ်ယူမည့် စက်ပစ္စည်းများ၏ မှတ်တမ်းဓာတ်ပုံနှင့် Specification များအားလည်းပူးတွဲတင်ပြအပ်ပါ သည်။

(ခ) စက်နှင့်စက်ပစ္စည်းဝယ်ယူထပ်တိုးမှုအပြင် မြေငှားရမ်းခများ၊ ငွေသား (Cash) ထပ်မံတိုးမြှင့်ခြင်းတို့ဖြင့် (Investment Plan) တိုးမြှင့်ကာ စီးပွါးရေးဆိုင်ရာ တွက်ချက်မှုများအား ပြန်လည်တွက်ချက်ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဂ) ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်မည့် စက်ရုံအဆောက်အဦနှင့် ကျန်အဆောက်အဦများကိုလည်း ပြန်လည်ပြင်ဆင်ခြင်း (Renovation) လုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဃ) PVC Pipe ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်စဉ် ထွက်ရှိလာသည့် အပူငွေ့၊ အနံ့များ အနည်းဆုံးသို့လျှော့ချနိုင်ရန်အတွက် စက်ရုံတွင် Exhaust Fan များတပ်ဆင်ခြင်း၊ လေဝင်လေထွက်ကောင်းမွန်စေရန်တို့အတွက် စီမံဆောင်ရွက်မည်ဖြစ်ပါသည်။ ဝန်ထမ်းများဘေးအန္တရာယ်ကင်းရှင်းရေးအတွက်လည်း စနစ်တကျ စီမံဆောင်ရွက်သွားမည် ဖြစ်ပါသည်။ စက်ရုံပတ်ဝန်းကျင်သန့်ရှင်းသာယာလှပရေး နှင့် မီးဘေးအန္တရာယ် ကာကွယ်ရေးအတွက်လည်း လက်ရှိမီးသတ်ရေကန်အား အဆင်သင့်ဖြစ်စေရန်အတွက် စီစဉ်ဆောင်ရွက်ခြင်း၊ မီးသတ်ဆေးဘူးများလုံလောက်စွာထားရှိခြင်း ၊ မီးသတ်ဦးစီးဌာန၏ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(စ) ပလတ်စတစ်စက်ရုံခွဲ (မရမ်းကုန်း) မှ Laundry Service လုပ်ငန်းကိုလည်း ဖယ်ရှားရှင်းလင်းဆောင်ရွက်ပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အမှတ် (၁) ပလတ်စတစ်စက်ရုံ၊ စက်ရုံခွဲ (မရမ်းကုန်း) တွင် PVC Pipe ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပတ်သက်ပြီး ဆက်လက်ဆောင်ရွက်မည့် အစီအမံများအား လေးစားစွာတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မြတ်

Managing Director

ပြည်တွင်းဝယ်ယူမည့် PVC Extrusion Machine





## Single screw extruder
## Specifications

| Model | | NMS-45 | NMS-55 | NMS-65 | NMS-85 | NMS-100 |
|---|---|---|---|---|---|---|
| Screw Length (L/D) | | 24/28 | 24/28 | 24/28 | 24/28 | 24/28 |
| Screw Diamenter (MM) | | 45 | 55 | 65 | 85 | 100 |
| Screw Speed (R.P.M.) | | 60-120 | 60-120 | 60-120 | 50-120 | 50-120 |
| Drive Motor Power (HP) | | 15-30 | 20-50 | 30-75 | 40-150 | 50-200 |
| Cylinder Heating (KW) | | 7.5 | 10 | 12 | 14 | 15 |
| Flange Heating (KW) | | 0.5 | 0.6 | 0.7 | 1 | 1 |
| Cylinder Cooling Power (KW) | | 0.05x3 | 0.05x3 | 0.05x3 | 0.1x3 | 0.1x4 |
| Installed Electric Power (KW) | | 22 | 30 | 36 | 47 | 88 |
| Number Of Die Heating Zones | | 2 | 3 | 3 | 3 | 4 |
| Number Of Cylinder Heating Zones | | 3 | 3 | 3 | 4 | 5 |
| Hopper Sizes (KG) | | 50 | 50 | 50 | 100 | 100 |
| Center Height (MM) | | 1050 | 1050 | 1050 | 1050 | 1050 |
| Weight (KG) | | 850 | 950 | 1100 | 1600 | 2200 |
| MAX. Output (KG/H) | HDPE Pipe | 70 | 100 | 150 | 350 | 500 |
| | PVC-profile | 20 | 40 | 70 | 100 | 150 |
| Overal Sizes (MM) | Length | 1700 | 2040 | 2360 | 2870 | 3260 |
| | Width | 980 | 1000 | 1025 | 1300 | 1500 |
| | Height | 1800 | 1900 | 2000 | 2150 | 2300 |

သို့

ဥက္ကဌ

# MINISTRY OF INDUSTRY NO. ( 1 )

## Map of Plastic Factory No. (2)

### Factory Plant Layout



# NeoTech Myanmar Co., Ltd.

No. (218), Ward (34), Tabin Shwe Hti Rd., New Dagon (North), Yangon, Myanmar

Ph. 09-5026223, 01-584126 Email: neotechmyanmar3@gmail.com

စာအမှတ်။ ။MMMD/ENV9/7/2016

ရက်စွဲ။ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၉) ရက်။

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ New General Industry Co.,Ltd ၏ PVC Pipe ထုတ်လုပ်မှုလုပ်ငန်းအတွက် Environmental Impact Assessment (EIA) ပြုလုပ်ခြင်းနှင့်ပတ်သက်၍ အစီရင်ခံတင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ New General Industry Co.,Ltd သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အမှတ် (29/B)၊ ပေါ်တော်မူဘုရားလမ်း၊ သမိုင်း-၂ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ အမှတ် စက်ရုံခွဲ (မရမ်းကုန်း) တွင် PVC pipe အမျိုးမျိုးထုတ်လုပ်မှုလုပ်ငန်းအတွက် NeoTech Myanmar Co.,Ltd အား Environmental Impact Assessment (EIA) ပြုလုပ်ရန် လုပ်ငန်းအပ်နှံခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်ပြီး NeoTech Myanmar Co.,Ltd မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ပညာရှင်များသည် ၂၀၁၆ ခုနှစ်၊ မတ်လပထမပတ်မှစတင်ကာ ပတ်ဝန်းကျင်ဒေသများတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ သုတေသနစမ်းသပ်ချက်များ စတင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ New General Industry Co.,Ltd ၏ Environmental Impact Assessment (EIA) Report အား ၂၀၁၆ ခုနှစ်၊ မေလတတိယပတ်တွင် ပြီးစီး နိုင်မည်ဖြစ်ပါကြောင်း အစီရင်ခံတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(signature)

ဒေါက်တာဇင်မင်း

Managing Director
NeoTech Myanmar Co.,Ltd

Annex-3-1

**NEW GENERAL INDUSTRY COMPANY LIMITED**

**List of Packing Materials and Raw Materials to be imported per Annum**

**Mayangone Plastic Factory (PVC Pipe Project)**

| Sr. No. | Description | A/U | Price US$ | Year-1 | | Year-2 | | Year-3 | |
|---|---|---|---|---|---|---|---|---|---|
| | | | | Qty | Amt(US$) | Qty | Amt(US$) | Qty | Amt(US$) |
| I. | **Packing Materials** | | | | | | | | |
| 1 | Polypropylene (PP) | Ton | 1,130 | 701 | 792,130 | 777 | 878,015 | 864 | 976,320 |
| | | | | | | | | | |
| II. | **Raw Materials** | | | | | | | | |
| 1 | PVC Resins | Ton | 1,130 | 8,300 | 9,379,000 | 9,200 | 10,396,000 | 10,230 | 11,559,900 |
| | | | | | | | | | |
| | **Sub Total** | | | | **10,171,130** | | **11,274,015** | | **12,536,220** |
| | | | | | | | | | |
| | **Converted Kyats** | | | | **12,205,356,000** | | **13,528,817,816** | | **15,043,464,000** |

Note: Exchange Rate 1 US$ = 1,200 Kyats

Annex-2

# NEW GENERAL INDUSTRY COMPANY LIMITED

## Investment Plan

## Mayangone Plastic Factory (PVC Pipe Project)

| Sr. No. | Particulars | Year-1 | | | |
|---|---|---|---|---|---|
| | | Equity | | | |
| | | In Kyats | In US$ | Total (Kyats) | Total USD |
| 1 | Land Leased | 122,400,000 | - | 122,400,000 | 102,000 |
| 2 | Machinery and Equipment | 126,000,000 | - | 126,000,000 | 105,000 |
| 3 | Renovation Cost | 259,600,000 | - | 259,600,000 | 216,333 |
| 4 | Cash | 112,000,000 | - | 112,000,000 | 93,333 |
| | **Total** | **620,000,000** | **-** | **620,000,000** | **516,667** |

**Note : Exchange Rate 1 US$ = 1,200 Kyats**

New General Industry Company Limited

Investment Plan

Plastic Factory (Mayangone) PVC Pipe Project

| Sr | Description | Equity | |
|---|---|---|---|
| | | လက်ရှိ | ပြင်ဆင်ပြီး |
| 1 | Land Leased | 61,200,000 | 122,400,000 |
| 2 | Machinery & Equipment (Local) | - | 126,000,000 |
| 3 | Renovation Cost | - | 259,600,000 |
| 4 | Cash | 8,800,000 | 112,000,000 |
| | Total | 70,000,000 | 620,000,000 |

Annex-2-1

**NEW GENERAL INDUSTRY COMPANY LIMITED**

**Investment Plan**

**Mayangone Plastic Factory (PVC Pipe Project)**

| Sr. No. | Particulars | Existing Inv; Amount (Kyats) | Additional Investment Amount | | Total Inv; Amount | |
|---|---|---|---|---|---|---|
| | | | (US$) | (Kyats) | (US$) | (Kyats) |
| 1 | Land Leased | - | - | 122,400,000 | - | 122,400,000 |
| 2 | Machinery and Equipment | - | - | 126,000,000 | - | 126,000,000 |
| 3 | Renovation Cost | - | - | 259,600,000 | - | 259,600,000 |
| 4 | Cash | 60,000,000 | - | 52,000,000 | - | 112,000,000 |
| | **Total** | **60,000,000** | - | **560,000,000** | - | **620,000,000** |

**Note : Exchange Rate 1 US$ = 1,200 Kyats**

Annex-2-A

# NEW GENERAL INDUSTRY COMPANY LIMITED

## Mayangone Plastic Factory (PVC Pipe Project)

## Machinery & Equipment (Local Purchased)

| Sr | Particulars | A/U | Qty | Unit Price (Kyats) | Amount (Kyats) |
|---|---|---|---|---|---|
| 1 | Pipe Extrusion Machine & Accessories | Set | 3 | 42,000,000 | 126,000,000 |
| | **Total** | **-** | **3** | **42,000,000** | **126,000,000** |

## NEW GENERAL INDUSTRY COMPANY LIMITED

Mayangone Plastic Factory (PVC Pipe Project)

Depreciation

Expressed in Kyats

| Sr | Particulars | Rate | In Kind Amount | Depreciation Amount |
|---|---|---|---|---|
| | | | | Year 1-10 |
| 1 | Machineries and Equipment | 10% | 126,000,000 | 12,600,000 |
| | Total | | 126,000,000 | 12,600,000 |

Annex-3-A

NEW GENERAL INDUSTRY COMPANY LIMITED

Raw Materials Norm (PVC Pipe Project)

| Sr. No. | Description | A/U | Ton per Unit | Year-1 | | Year-2 | | Year-3 | | Year-4 | | Year-5 | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | | Sale | Raw Material Usage | Sale | Raw Material Usage | Sale | Raw Material Usage | Sale | Raw Material Usage | Sale | Raw Material Usage |
| **I.** | **Packing Materials** | | | | | | | | | | | | |
| 1 | Polypropylene (PP) | Ton | 0.0993 | 9,755 | 969 | 9,485 | 942 | 9,796 | 973 | 10,199 | 1,013 | 13,078 | 1,299 |
| **II.** | **Raw Materials** | | | | | | | | | | | | |
| 1 | PVC Resins | Ton | 1.1765 | 9,755 | 11,476 | 9,485 | 11,158 | 9,796 | 11,524 | 10,199 | 11,998 | 13,078 | 15,385 |
| | Total | | | **9,755** | **11,476** | **9,485** | **11,158** | **9,796** | **11,524** | **10,199** | **11,998** | **13,078** | **15,385** |

| Sr. No. | Description | A/U | Ton per Unit | Year-6 | | Year-7 | | Year-8 | | Year-9 | | Year-10 | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | | | Sale | Raw Material Usage | Sale | Raw Material Usage | Sale | Raw Material Usage | Sale | Raw Material Usage | Sale | Raw Material Usage |
| **I.** | **Packing Materials** | | | | | | | | | | | | |
| 1 | Polypropylene (PP) | Ton | 0.0993 | 16,750 | 1,663 | 19,995 | 1,985 | 20,750 | 2,060 | 22,275 | 2,212 | 25,975 | 2,579 |
| **II.** | **Raw Materials** | | | | | | | | | | | | |
| 1 | PVC Resins | Ton | 1.1765 | 16,750 | 19,705 | 19,995 | 23,523 | 20,750 | 24,412 | 22,275 | 26,206 | 25,975 | 30,558 |
| | Total | | | 16,750 | 19,705 | **19,995** | **23,523** | 20,750 | **24,412** | **22,275** | **26,206** | **25,975** | **30,558** |

# NEW GENERAL INDUSTRY COMPANY LIMITED

## List of Packing Materials and Raw Materials to be imported per Annum

## Mayangone Plastic Factory (PVC Pipe Project)

| Sr. No. | Description | A/U | Price US$ | Year-1 | | Year-2 | | Year-3 | |
|---|---|---|---|---|---|---|---|---|---|
| | | | | Qty | Amt(US$) | Qty | Amt(US$) | Qty | Amt(US$) |
| I. | **Packing Materials** | | | | | | | | |
| 1 | Polypropylene (PP) | Ton | 1,130 | 969 | 1,094,970 | 942 | 1,064,460 | 973 | 1,099,490 |
| | | | | | | | | | |
| II. | **Raw Materials** | | | | | | | | |
| 1 | PVC Resins | Ton | 1,130 | 11,476 | 12,967,880 | 11,158 | 12,608,540 | 11,524 | 13,022,120 |
| | | | | | | | | | |
| | **Sub Total** | | | | **14,062,850** | | **13,673,000** | | **14,121,610** |
| | | | | | | | | | |
| | Converted Kyats | | | | 16,875,420,000 | | 16,407,600,000 | | 16,945,932,000 |

Note: Exchange Rate 1 US$ = 1,200 Kyats

NEW GENERAL INDUSTRY COMPANY LIMITED

List of Packing Materials and Raw Materials to be imported per Annum

Mayangone Plastic Factory (PVC Pipe Project)

| Sr. No. | Description | Year-4 | | Year-5 | | Year-6 | | Year-7 | |
|---|---|---|---|---|---|---|---|---|---|
| | | Qty | Amt(US$) | Qty | Amt(US$) | Qty | Amt(US$) | Qty | Amt(US$) |
| **I.** | **Packing Materials** | | | | | | | | |
| 1 | Polypropylene (PP) | 1,013 | 1,144,690 | 1,299 | 1,467,870 | 1,663 | 1,879,190 | 1,985 | 2,243,050 |
| | | | | | | | | | |
| **II.** | **Raw Materials** | | | | | | | | |
| 1 | PVC Resins | 11,998 | 13,557,740 | 15,385 | 17,385,050 | 19,705 | 22,266,650 | 23,523 | 26,580,990 |
| | | | | | | | | | |
| | **Sub Total** | | **14,702,430** | | **18,852,920** | | **24,145,840** | | **28,824,040** |
| | | | | | | | | | |
| | **Converted Kyats** | | **17,642,916,000** | | **22,623,504,000** | | **28,975,008,000** | | **34,588,848,000** |

Note: Exchange Rate 1 US$ = 1,200 Kyats

# NEW GENERAL INDUSTRY COMPANY LIMITED

## List of Packing Materials and Raw Materials to be imported per Annum

## Mayangone Plastic Factory (PVC Pipe Project)

| Sr. No. | Description | Year-8 | | Year-9 | | Year-10 | |
|---|---|---|---|---|---|---|---|
| | | Qty | Amt(US$) | Qty | Amt(US$) | Qty | Amt(US$) |
| **I.** | **Packing Materials** | | | | | | |
| 1 | Polypropylene (PP) | 2,060 | 2,327,800 | 2,212 | 2,499,560 | 2,579 | 2,914,270 |
| | | | | | | | |
| **II.** | **Raw Materials** | | | | | | |
| 1 | PVC Resins | 24,412 | 27,585,560 | 26,206 | 29,612,780 | 30,558 | 34,530,540 |
| | | | | | | | |
| | **Sub Total** | | **29,913,360** | | **32,112,340** | | **37,444,810** |
| | | | | | | | |
| | **Converted Kyats** | | 35,896,032,000 | | 38,534,808,000 | | **44,933,772,000** |

Note: Exchange Rate 1 US$ = 1,200 Kyats

Annex-4

## NEW GENERAL INDUSTRY COMPANY LIMITED

### List of Local personal

### Mayangone Plastic Factory (PVC Pipe Project)

| Sr. No. | Position | Year -1 | | | Year -2 | | | Year -3 | | |
|---|---|---|---|---|---|---|---|---|---|---|
| | | No.of Employee | Monthly (Kyats) | For the Year (Kyats) | No.of Employee | Monthly (Kyats) | For the Year (Kyats) | No.of Employee | Monthly (Kyats) | For the Year (Kyats) |
| 1 | General Manager | - | 500,000 | - | - | 520,000 | - | - | 540,000 | - |
| 2 | Factory Manager | 1 | 400,000 | 4,800,000 | 1 | 410,000 | 4,920,000 | 1 | 430,000 | 5,160,000 |
| 3 | Assistant Factory Manager | 2 | 300,000 | 7,200,000 | 2 | 310,000 | 7,440,000 | 2 | 330,000 | 7,920,000 |
| 4 | Section Incharge | 3 | 200,000 | 7,200,000 | 3 | 210,000 | 7,560,000 | 3 | 220,000 | 7,920,000 |
| 5 | Electrical & Maintenance Engineer | 3 | 200,000 | 7,200,000 | 5 | 215,000 | 12,900,000 | 6 | 225,000 | 16,200,000 |
| 6 | Operator | 10 | 160,000 | 19,200,000 | 12 | 170,000 | 24,480,000 | 15 | 180,000 | 32,400,000 |
| 7 | Assistant Operator | 15 | 130,000 | 23,400,000 | 18 | 140,000 | 30,240,000 | 20 | 150,000 | 36,000,000 |
| 8 | Quality Control | 3 | 120,000 | 4,320,000 | 5 | 130,000 | 7,800,000 | 5 | 140,000 | 8,400,000 |
| 9 | General Workers | 18 | 108,000 | 23,328,000 | 20 | 115,000 | 27,600,000 | 22 | 125,000 | 33,000,000 |
| 10 | Marketing Staff | 5 | 110,000 | 6,600,000 | 9 | 120,000 | 12,960,000 | 11 | 130,000 | 17,160,000 |
| | Total | 60 | | 103,248,000 | 75 | | 135,900,000 | 85 | | 164,160,000 |

| Sr. No. | Position | Year -4 | | | Year -5 | | | Year -6 to 10 | | |
|---|---|---|---|---|---|---|---|---|---|---|
| | | No.of Employee | Monthly (Kyats) | For the Year (Kyats) | No.of Employee | Monthly (Kyats) | For the Year (Kyats) | No.of Employee | Monthly (Kyats) | For the Year (Kyats) |
| 1 | General Manager | - | 550,000 | - | - | 570,000 | - | - | 570,000 | - |
| 2 | Factory Manager | 1 | 450,000 | 5,400,000 | 1 | 460,000 | 5,520,000 | 1 | 460,000 | 5,520,000 |
| 3 | Assistant Factory Manager | 2 | 350,000 | 8,400,000 | 2 | 360,000 | 8,640,000 | 2 | 360,000 | 8,640,000 |
| 4 | Section Incharge | 4 | 230,000 | 11,040,000 | 4 | 250,000 | 12,000,000 | 4 | 250,000 | 12,000,000 |
| 5 | Electrical & Maintenance Engineer | 6 | 240,000 | 17,280,000 | 6 | 250,000 | 18,000,000 | 6 | 250,000 | 18,000,000 |
| 6 | Operator | 18 | 200,000 | 43,200,000 | 20 | 220,000 | 52,800,000 | 22 | 220,000 | 58,080,000 |
| 7 | Assistant Operator | 22 | 160,000 | 42,240,000 | 24 | 180,000 | 51,840,000 | 25 | 180,000 | 54,000,000 |
| 8 | Quality Control | 5 | 150,000 | 9,000,000 | 5 | 160,000 | 9,600,000 | 5 | 160,000 | 9,600,000 |
| 9 | General Workers | 24 | 135,000 | 38,880,000 | 25 | 145,000 | 43,500,000 | 28 | 155,000 | 52,080,000 |
| 10 | Marketing Staff | 13 | 140,000 | 21,840,000 | 13 | 150,000 | 23,400,000 | 12 | 150,000 | 21,600,000 |
| | Total | 95 | | 197,280,000 | 100 | | 225,300,000 | 105 | | 239,520,000 |

**Note**

စက်မှုဝန်ကြီးဌာနမှ မြေနှင့် စက်ရုံငှားရမ်းရာ၌ လွှဲပြောင်းရယူထားပြီးသော အစိုးရဝန်ထမ်းများ ဖြစ်ပါသည်။

Annex-5

NEW GENERAL INDUSTRY COMPANY LIMITED

Estimated Expenditure

Mayangone Plastic Factory (PVC Pipe Project)

Kyats ('000 )

| Sr. No. | Description | Year-1 | Year-2 | Year-3 | Year-4 | Year-5 | Year-6 | Year-7 | Year-8 | Year-9 | Year-10 |
|---|---|---|---|---|---|---|---|---|---|---|---|
| 1 | Salary & Wages | 103,248 | 135,900 | 164,160 | 197,280 | 225,300 | 239,520 | 239,520 | 239,520 | 239,520 | 239,520 |
| 2 | Repair and Maintenance (Building) | 4,000 | 4,080 | 4,162 | 4,245 | 4,457 | 4,680 | 4,867 | 5,062 | 5,264 | 5,475 |
| 3 | Repair and Maintenance (Machine) | 3,000 | 3,060 | 3,121 | 3,184 | 3,343 | 3,510 | 3,650 | 3,796 | 3,948 | 4,106 |
| 4 | Electricity Charges | 5,000 | 5,100 | 5,202 | 5,306 | 5,571 | 5,850 | 6,084 | 6,327 | 6,580 | 6,844 |
| 5 | Water Charges | 2,000 | 2,040 | 2,081 | 2,122 | 2,229 | 2,340 | 2,434 | 2,531 | 2,632 | 2,737 |
| 6 | Fuel Expenses | 2,500 | 2,550 | 2,601 | 2,653 | 2,786 | 2,925 | 3,042 | 3,164 | 3,290 | 3,422 |
| 7 | Administration | 4,000 | 4,080 | 4,162 | 4,245 | 4,457 | 4,680 | 4,867 | 5,062 | 5,264 | 5,475 |
| 8 | Transportation | 3,000 | 3,060 | 3,121 | 3,184 | 3,343 | 3,510 | 3,650 | 3,796 | 3,948 | 4,106 |
| 9 | Land & Building Lease | 61,200 | 61,200 | 61,200 | 61,200 | 61,200 | 61,200 | 61,200 | 61,200 | 61,200 | 61,200 |
| 10 | Entertainment | 1,000 | 1,020 | 1,040 | 1,061 | 1,114 | 1,170 | 1,217 | 1,265 | 1,316 | 1,369 |
| 11 | Pension contribution | 5,000 | 5,100 | 5,202 | 5,306 | 5,571 | 5,850 | 6,084 | 6,327 | 6,580 | 6,844 |
| 12 | Depreciation | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 |
| | **Total Expenditure** | **206,548** | **239,790** | **268,652** | **302,386** | **331,971** | **347,835** | **349,215** | **350,650** | **352,142** | **353,698** |

NEW GENERAL INDUSTRY COMPANY LIMITED

Income Structure

Mayangone Plastic Factory (PVC Pipe Project)

| Description | Year | A/U | Export Sale - 56% | | | | Local Sale - 44% | | | 5% | Total |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | Quantity | Unit Price (US$) | Amount (US$) | Amount (Converted Kyats) | Quantity | Unit Price (Kyats) | Amount (Kyats) | | Kyats |
| PVC Pipe | Year 1 | Ton | 5,463 | 1,500 | 8,194,500 | 9,833,400,000 | 4,292 | 1,800,000 | 7,725,600,000 | 367,885,714 | 17,559,000,000 |
| | Year 2 | Ton | 5,312 | 1,500 | 7,968,000 | 9,561,600,000 | 4,173 | 1,800,000 | 7,511,400,000 | 357,685,714 | 17,073,000,000 |
| | Year 3 | Ton | 5,486 | 1,500 | 8,229,000 | 9,874,800,000 | 4,310 | 1,800,000 | 7,758,000,000 | 369,428,571 | 17,632,800,000 |
| | Year 4 | Ton | 5,711 | 1,500 | 8,566,500 | 10,279,800,000 | 4,488 | 1,800,000 | 8,078,400,000 | 384,685,714 | 18,358,200,000 |
| | Year 5 | Ton | 7,324 | 1,500 | 10,986,000 | 13,183,200,000 | 5,754 | 1,800,000 | 10,357,200,000 | 493,200,000 | 23,540,400,000 |
| | Year 6 | Ton | 9,380 | 1,500 | 14,070,000 | 16,884,000,000 | 7,370 | 1,800,000 | 13,266,000,000 | 631,714,286 | 30,150,000,000 |
| | Year 7 | Ton | 11,197 | 1,500 | 16,795,500 | 20,154,600,000 | 8,798 | 1,800,000 | 15,836,400,000 | 754,114,286 | 35,991,000,000 |
| | Year 8 | Ton | 11,620 | 1,500 | 17,430,000 | 20,916,000,000 | 9,130 | 1,800,000 | 16,434,000,000 | 782,571,429 | 37,350,000,000 |
| | Year 9 | Ton | 12,474 | 1,500 | 18,711,000 | 22,453,200,000 | 9,801 | 1,800,000 | 17,641,800,000 | 840,085,714 | 40,095,000,000 |
| | Year 10 | Ton | 14,546 | 1,500 | 21,819,000 | 26,182,800,000 | 11,429 | 1,800,000 | 20,572,200,000 | 979,628,571 | 46,755,000,000 |
| Sub Total | | | | | 132,769,500 | 159,323,400,000 | | | 125,181,000,000 | 5,960,999,999 | 284,504,400,000 |

Note : Exchange Rate 1 US$ = 1,200 Kyats

## NEW GENERAL INDUSTRY COMPANY LIMITED
### Summary of 10 years Profit and Loss Account
### Mayangone Plastic Factory (PVC Pipe Project)

Kyats ('000)

| Expressed in Kyat | Year | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|
| Income | 1 | 2 | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 |
| Sale Income | | | | | | | | | | |
| Export Sale | 9,833,400 | 9,561,600 | 9,874,800 | 10,279,800 | 13,183,200 | 16,884,000 | 20,154,600 | 20,916,000 | 22,453,200 | 26,182,800 |
| Local Sale | 7,725,600 | 7,511,400 | 7,758,000 | 8,078,400 | 10,357,200 | 13,266,000 | 15,836,400 | 16,434,000 | 17,641,800 | 20,572,200 |
| Less: Commercial Tax | (367,886) | (357,686) | (369,429) | (384,686) | (493,200) | (631,714) | (754,114) | (782,571) | (840,086) | (979,629) |
| | 7,357,714 | 7,153,714 | 7,388,571 | 7,693,714 | 9,864,000 | 12,634,286 | 15,082,286 | 15,651,429 | 16,801,714 | 19,592,571 |
| **Net Sales** | **17,191,114** | **16,715,314** | **17,263,371** | **17,973,514** | **23,047,200** | **29,518,286** | **35,236,886** | **36,567,429** | **39,254,914** | **45,775,371** |
| **Expenditures** | | | | | | | | | | |
| Raw Materials | 16,875,420 | 16,407,600 | 16,945,932 | 17,642,916 | 22,623,504 | 28,975,008 | 34,588,848 | 35,896,032 | 38,534,808 | 44,933,772 |
| Salary & Wages | 103,248 | 135,900 | 164,160 | 197,280 | 225,300 | 239,520 | 239,520 | 239,520 | 239,520 | 239,520 |
| Repair and Maintenance (Building) | 4,000 | 4,080 | 4,162 | 4,245 | 4,457 | 4,680 | 4,867 | 5,062 | 5,264 | 5,475 |
| Repair and Maintenance (Machine) | 3,000 | 3,060 | 3,121 | 3,184 | 3,343 | 3,510 | 3,650 | 3,796 | 3,948 | 4,106 |
| Electricity Charges | 5,000 | 5,100 | 5,202 | 5,306 | 5,571 | 5,850 | 6,084 | 6,327 | 6,580 | 6,844 |
| Water Charges | 2,000 | 2,040 | 2,081 | 2,122 | 2,229 | 2,340 | 2,434 | 2,531 | 2,632 | 2,737 |
| Fuel Expenses | 2,500 | 2,550 | 2,601 | 2,653 | 2,786 | 2,925 | 3,042 | 3,164 | 3,290 | 3,422 |
| Administration | 4,000 | 4,080 | 4,162 | 4,245 | 4,457 | 4,680 | 4,867 | 5,062 | 5,264 | 5,475 |
| Transportation | 3,000 | 3,060 | 3,121 | 3,184 | 3,343 | 3,510 | 3,650 | 3,796 | 3,948 | 4,106 |
| Land & Building Lease | 61,200 | 61,200 | 61,200 | 61,200 | 61,200 | 61,200 | 61,200 | 61,200 | 61,200 | 61,200 |
| Entertainment | 1,000 | 1,020 | 1,040 | 1,061 | 1,114 | 1,170 | 1,217 | 1,265 | 1,316 | 1,369 |
| Pension contribution | 5,000 | 5,100 | 5,202 | 5,306 | 5,571 | 5,850 | 6,084 | 6,327 | 6,580 | 6,844 |
| Depreciation | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 |
| Total Expenditures | 17,081,968 | 16,647,390 | 17,214,584 | 17,945,302 | 22,955,475 | 29,322,843 | 34,938,063 | 36,246,682 | 38,886,950 | 45,287,470 |
| Gross Profit | 109,146 | 67,924 | 48,787 | 28,212 | 91,725 | 195,443 | 298,823 | 320,747 | 367,964 | 487,901 |
| Income Tax (25%) | Tax Exemption Period | | | | | 48,861 | 74,706 | 80,187 | 91,991 | 121,975 |
| Net Profit (after Tax) | 109,146 | 67,924 | 48,787 | 28,212 | 91,725 | 146,582 | 224,117 | 240,560 | 275,973 | 365,926 |
| CSR (2%) | 2,183 | 1,358 | 976 | 564 | 1,835 | 2,932 | 4,482 | 4,811 | 5,519 | 7,319 |

Annex-8

# NEW GENERAL INDUSTRY COMPANY LIMITED
## Mayangone Plastic Factory (PVC Pipe Project)
## Pay back Period

Kyats ('000)

| Particulars | Pre-Operation period | Year-1 | Year-2 | Year-3 | Year-4 | Year-5 | Year-6 | Year-7 | Year-8 | Year-9 | Year- 10 |
|---|---|---|---|---|---|---|---|---|---|---|---|
| **Profit after Tax** | | | | | | | | | | | |
| Profit after Tax | - | 109,146 | 67,924 | 48,787 | 28,212 | 91,725 | 146,582 | 224,117 | 240,560 | 275,973 | 365,926 |
| Depreciation | - | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 | 12,600 |
| | - | 121,746 | 80,524 | 61,387 | 40,812 | 104,325 | 159,182 | 236,717 | 253,160 | 288,573 | 378,526 |
| Decrease in Prepayment of Land lease | - | 61,200 | - | - | - | - | - | - | - | - | - |
| Cash in Flow | - | 182,946 | 80,524 | 61,387 | 40,812 | 104,325 | 159,182 | 236,717 | 253,160 | 288,573 | 378,526 |
| **Investment** | | | | | | | | | | | |
| Land Leased | 122,400 | - | - | - | - | - | - | - | - | - | - |
| Machinery and Equipment | 126,000 | - | - | - | - | - | - | - | - | - | - |
| Renovation Cost | 259,600 | | | | | | | | | | |
| Revolving Capital | 112,000 | - | - | - | - | - | - | - | - | - | - |
| **Cash Out Flow** | 620,000 | - | - | - | - | - | - | - | - | - | - |
| | | | | | | | | | | | |
| Net Cash Flow | (620,000) | 182,946 | 80,524 | 61,387 | 40,812 | 104,325 | 159,182 | 236,717 | 253,160 | 288,573 | 378,526 |
| Opening Balance | - | (620,000) | (437,054) | (356,530) | (295,143) | (254,331) | (150,006) | 9,176 | 245,893 | 499,053 | 787,627 |
| Accumulated Cash Flow | (620,000) | (437,054) | (356,530) | (295,143) | (254,331) | (150,006) | 9,176 | 245,893 | 499,053 | 787,627 | 1,166,153 |

Pay back Period = 6 Years & 11 Months

# NEW GENERAL INDUSTRY COMPANY LIMITED

## Calculation of Internal Rate of Return

## Mayangone Plastic Factory (PVC Pipe Project)

Kyats('000)

| Year | Net Cash in Flow | D.F 10% | | D.F 20 % | |
|---|---|---|---|---|---|
| | | Rate | P.V | Rate | P.V |
| Year 0 | (620,000) | 1.0000 | (620,000) | 1.0000 | (620,000) |
| Year 1 | 182,946 | 0.9091 | 166,315 | 0.8333 | 152,455 |
| Year 2 | 80,524 | 0.8264 | 66,549 | 0.6944 | 55,920 |
| Year 3 | 61,387 | 0.7513 | 46,121 | 0.5787 | 35,525 |
| Year 4 | 40,812 | 0.6830 | 27,875 | 0.4823 | 19,682 |
| Year 5 | 104,325 | 0.6209 | 64,778 | 0.4019 | 41,926 |
| Year 6 | 159,182 | 0.5645 | 89,854 | 0.3349 | 53,310 |
| Year 7 | 236,717 | 0.5132 | 121,473 | 0.2791 | 66,063 |
| Year 8 | 253,160 | 0.4665 | 118,101 | 0.2326 | 58,877 |
| Year 9 | 288,573 | 0.4241 | 122,383 | 0.1938 | 55,927 |
| Year 10 | 378,526 | 0.3855 | 145,938 | 0.1615 | 61,134 |
| | | | **349,386** | | **(19,181)** |

Internal Rate of Return =19 %

# ပလတ်စတစ်စက်ရုံခွဲ (မရမ်းကုန်း)

# ပြည်တွင်းကျပ်ငွေဖြင့်ဝယ်ယူမည့်

# PVC Pipe ထုတ်လုပ်သည့်

# စက်နှင့်စက်ပစ္စည်းတန်ဘိုး

New General Industry Company Limited

Machinery & Equipment (Local Purchased)

Plastic Factory (Mayangone) PVC Project

| Sr No | Description | A/U | Qty | Unit Price (Kyats) | Amounts (Kyats) |
|---|---|---|---|---|---|
| 1 | Pipe Extrusion Machine & Accessories | Set | 3 | 42,000,000 | 126,000,000 |

ပြည်တွင်းဝယ်ယူမည့် PVC Extrusion Machine





PVC Extrusion Machine Single screw extruder
Specifications

| Model | | NMS-45 | NMS-55 | NMS-65 | NMS-85 | NMS-100 |
|---|---|---|---|---|---|---|
| Screw Length (L/D) | | 24/28 | 24/28 | 24/28 | 24/28 | 24/28 |
| Screw Diamenter (MM) | | 45 | 55 | 65 | 85 | 100 |
| Screw Speed (R.P.M.) | | 60-120 | 60-120 | 60-120 | 50-120 | 50-120 |
| Drive Motor Power (HP) | | 15-30 | 20-50 | 30-75 | 40-150 | 50-200 |
| Cylinder Heating (KW) | | 7.5 | 10 | 12 | 14 | 15 |
| Flange Heating (KW) | | 0.5 | 0.6 | 0.7 | 1 | 1 |
| Cylinder Cooling Power (KW) | | 0.05x3 | 0.05x3 | 0.05x3 | 0.1x3 | 0.1x4 |
| Installed Electric Power (KW) | | 22 | 30 | 36 | 47 | 88 |
| Number Of Die Heating Zones | | 2 | 3 | 3 | 3 | 4 |
| Number Of Cylinder Heating Zones | | 3 | 3 | 3 | 4 | 5 |
| Hopper Sizes (KG) | | 50 | 50 | 50 | 100 | 100 |
| Center Height (MM) | | 1050 | 1050 | 1050 | 1050 | 1050 |
| Weight (KG) | | 850 | 950 | 1100 | 1600 | 2200 |
| MAX. Output (KG/H) | HDPE Pipe | 70 | 100 | 150 | 350 | 500 |
| | PVC-profile | 20 | 40 | 70 | 100 | 150 |
| Overal Sizes (MM) | Length | 1700 | 2040 | 2360 | 2870 | 3260 |
| | Width | 980 | 1000 | 1025 | 1300 | 1500 |
| | Height | 1800 | 1900 | 2000 | 2150 | 2300 |

**ကုမ္ပဏီအမည် -** သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်

**လုပ်ငန်း** - PVC Pipe အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၄-၁-၂၀၁၅ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃/၂၀၁၅) သို့ အစည်းအဝေး တင်ပြခြင်း | ၁၉-၁-၂၀၁၅ | | လုပ်ငန်း ဆောင်ရွက်မည့် နေရာ၊ လုပ်ငန်း အမျိုးအစား မတူညီပါသဖြင့် စက်ရုံတစ်ခုချင်းစီ အလိုက် အဆိုပြုချက်အား ခွဲခြား တင်ပြရန် ဆုံးဖြတ် ခဲ့ပါသည်။ |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏(၃/၂၀၁၅)ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက် အား ကုမ္ပဏီသို့ အကြောင်းကြားခြင်း | ၂၃-၁-၂၀၁၅ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏(၃/၂၀၁၅)ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက် နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင် တင်ပြလာခြင်း | ၁၈-၁-၂၀၁၆ | | |
| ၅ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၂-၁-၂၀၁၆ | ၈-၂-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့ | ၂၂-၁-၂၀၁၆ | ၂၂-၂-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၂၂-၁-၂၀၁၆ | ၁၅-၂-၂၀၁၆ | |
| ၆ | ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်ပြီး အဆိုပြုလွှာ (၉)စုံ ပေးပို့ခြင်း | ၃-၃-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၄၁၅) ရက်** | | |

- လုပ်ငန်း ဆောင်ရွက်မည့် နေရာ၊ လုပ်ငန်း အမျိုးအစား မတူညီပါသဖြင့် စက်ရုံတစ်ခုချင်းစီ အလိုက် အဆိုပြုချက်အား ခွဲခြား တင်ပြရန် ဆုံးဖြတ် ခဲ့ပါသည်။
- အဆိုပြုချက်စိစစ်ရေးအဖွဲ့၏(၃/၂၀၁၅)ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှ ၁၈-၁-၂၀၁၆ ရက်နေ့တွင် ပြင်ဆင်တင်ပြလာပါသည်။
- ကုမ္ပဏီမှ ပြင်ဆင်တင်ပြချက်များနှင့်အတူ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနနှင့် စက်မှုဝန်ကြီးဌာနတို့သို့ ၂၂-၁-၂၀၁၆ရက်နေ့တွင် သဘောထား များ တောင်းခံခဲ့ပါသည်။

အကြောင်းအရာ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်လွင်အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှစက်မှုဝန်ကြီးဌာန၊မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် အမှတ်(၁) ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ(မရမ်းကုန်း)တွင် PVC Pipe အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - New General Industry Co., Ltd.<br>(သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်) |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးအောင်မြတ်(အဘ-ဦးသိန်းမြင့်) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - PVC Pipe အမျိုးမျိုးထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၂။ | လုပ်ငန်းတည်နေရာ | - စက်မှုဝန်ကြီးဌာန၊မြန်မာ့ဆေးဝါးလုပ်ငန်းပိုင်အမှတ်(၁) ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း) အမှတ် ၂၉/ဘီ၊ ပေါ်တော်မူဘုရားလမ်း၊ သမိုင်း ၂ ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | မြေပိုင်ရှင် | - စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း |
| | မြေအကျယ်အဝန်း | - မြေဧရိယာ(၁.၁၈)ဧက (၄၇၇၅.၂၉၄၈ စတုရန်းမီတာ) |
| | အဆောက်အဦအရေအတွက် | - ထုတ်လုပ်ရေးဌာနအပါအဝင် အဆောက်အဦ ၁၃ လုံး |
| ၃။ | လုပ်ငန်းဆောင်ရွက်မှုအာမခံ (PBG) | - တစ်နှစ်စာငှားရမ်းခ၏ ၁၀%နှင့်ညီမျှသော တန်ဖိုး |
| | မြေနှင့်စက်ရုံငှားသက်တမ်း | - ကနဦး နှစ် ၅၀ သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်<br>(၁-၇-၂၀၁၂ မှ ၃၀-၆-၂၀၆၂ ထိ လက်ကျန် သက်တမ်း ၄၆ နှစ် ဖြစ်ပါသည်။) |
| | နှစ်စဉ်မြေနှင့်အဆောက်အဦငှားရမ်းခ | - ကျပ် ၆၀.၂၀၀ သန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး နှစ် ၅၀ သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၁နှစ် |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **- ကျပ် ၇၀.၀၀ သန်း** |
| | **ထည့်ဝင်သည့်အမျိုးအစား** | **ကျပ်(သန်း)** |
| | ငွေသား | ၈.၈၀ |
| | မြေငှားရမ်းခ | ၆၁.၂၀ |
| ၆။ | ပြည်တွင်းဝန်ထမ်းအင်အား (ပထမနှစ်) | - ၆၀ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာကျပ် ၁၀၈,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၅၀၀,၀၀၀) |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်းတွင် ၄၄%နှင့် ပြည်ပသို့ ၅၆% တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ |
| | ထုတ်လုပ်မှုနှင့်ရောင်းချမှု (၆နှစ်မြောက်) | |

| | ပြည်ပ (၅၆%) | | ပြည်တွင်း(၄၄%) | |
|---|---|---|---|---|
| | **အရေအတွက် (Ton)** | **ရောင်းဈေး (US$/Ton)** | **အရေအတွက် (Ton)** | **ရောင်းဈေး (ကျပ်/Ton)** |
| PVC Pipe | ၆,၁၉၃ | ၁,၅၀၀ | ၄,၈၆၆ | ၁,၈၀၀,၀၀၀ |

| | | |
|---|---|---|
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - ကျပ် ၁၉,၉၀၅.၃၀ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ်(ဆဋ္ဌမနှစ်) | ကျပ် ၁၉,၉၀၁.၃၈ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ်(ဆဋ္ဌမနှစ်) | ကျပ် ၃.၉၂ သန်း |

| | | |
|---|---|---|
| ၉။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | |
| | ဝင်ငွေခွန် | - ကျပ် ၁.၃၁ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၄၁၇.၀၆ သန်း (အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် မြန်မာကျပ်ငွေ ၁,၂၀၀ နှုန်း ဖြင့်တွက်ချက်ထားပါသည်) |
| | အရင်းကြေကာလ | - ၆ နှစ် ၁၁ လ |
| | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၉ % |
| ၁၀။ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၃၀,၀၀၀,၀၀၀ kWh |
| ၁၁။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၂% ကို Corporate Social Responsibility အဖြစ် သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | မီးဘေးကာကွယ်ရေးအစီအစဉ် | - ရေဂါလံ ၁၀၀,၀၀၀ ဆန့် ရေလှောင်ကန်ကြီးများကို မီးလောင်မှုမှ ကာကွယ်ရန် သံကူ၊ ကွန်ကရစ်ဖြင့် တည်ဆောက်မည် ဖြစ်ကြောင်း၊ ရေပုံး၊ မီးကပ်၊ မီးချိတ်၊ သဲအိတ်နှင့် မီးသတ်ဆေးဗူးများ ထားရှိမည် ဖြစ်ကြောင်း၊ လုပ်ငန်းခွင်အတွင်း မီးဘေး အန္တရာယ် တားဆီးကာကွယ်ရန် စည်းကမ်းချက်များ ထားရှိမည်ဖြစ်ပြီး ဝန်ထမ်းများအားလည်း စည်းကမ်း လိုက်နာစေမည်ဖြစ်ကြောင်း၊ မီးသတ်နည်းပညာများ၊ ကာကွယ်နည်းများကို လေ့ကျင့်သင်ကြားပေးမည် ဖြစ်ကြောင်းနှင့် လျှပ်စစ်အန္တရာယ်များ မဖြစ်ပေါ်အောင် ကြိုတင်ကာကွယ် သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | ငွေကြေးအထောက်အထား | - ငွေကြေး အထောက်အထားအဖြစ် သစ်လွင် အထွေထွေ စက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက် အမည်ဖြင့် မြန်မာ့စီးပွားရေး ဘဏ်တွင် (၂၇-၁-၂၀၁၆)နေ့တွင် ကျပ် ၁၇,၆၄၉,၅၄၉.၃၆နှင့် ရောဝတီဘဏ်တွင် ဦးအောင်မြတ် အမည်ဖြင့် ၂၉-၂-၂၀၁၆ နေ့အထိ ကျပ် ၃၀,၀၀၉,၉၉၀ ရှိကြောင်း တင်ပြ ထားပါသည်။ |
| ၁၄။ | အခြား | - သစ်လွင်အထွေထွေစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်၏ သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်း၊ ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် အမှတ်၁၁၈၈/၂၀၁၀-၂၀၁၁၊ ဒါရိုက်တာစာရင်းနှင့် ဒါရိုက်တာ အဖွဲ့ဝင်များ၏ နိုင်ငံသား စိစစ်ရေး ကတ်ပြား မိတ္တူများကို တင်ပြထားပါသည်။<br>- သစ်လွင် အထွေထွေ စက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက် ၏ ၂၀၁၅ မတ်လအထိ စာရင်းစစ် အစီရင်ခံစာ တင်ပြထား ပါသည်။ |
| ၁၅။ | စိစစ်တင်ပြချက် | - အမှတ်(၁) ပလတ်စတစ်စက်ရုံ၊ စက်ရုံခွဲ (မရမ်းကုန်း)၏ တည်နေရာပြ မြေစာရင်းမြေပုံနှင့် သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သို့ နှစ်ရှည်ငှားရမ်းမည့် အဆောက်အဦ၊ ရုံးသုံးပရိဘောဂ၊ မော်တော်ယာဉ်နှင့် စက်ပစ္စည်းကိရိယာ စာရင်းများအားတင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - **ပစ္စည်းဝယ်ယူ ရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ၏ ၆/၂၀၁၂-၂၀၁၃ (၈-၆-၂၀၁၂)**၏ ခွင့်ပြုချက်ဖြင့် ၂၀-၆-၂၀၁၂ ရက်စွဲဖြင့် ချုပ်ဆိုထားသော အမှတ်(၁) ပလတ်စတစ် စက်ရုံ (ရန်ကုန်) နှင့် စက်ရုံခွဲ (မရမ်းကုန်း)၊ စက်ရုံခွဲ (မှော်ဘီ) တို့အား **၁-၇-၂၀၁၂** ရက်နေ့မှ စတင်၍ Mother Trading Co., Ltd. သို့ ငှားရမ်းသည့် သဘောတူ စာချုပ်အား တင်ပြထားပြီး ငှားရမ်း သက်တမ်းမှာ ၁၅ နှစ် ဖြစ်ပါသည်။<br>- ၁၉-၁၂-၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေး ဆိုင်ရာ ကော်မတီအစည်းအဝေး အမှတ်စဉ် (၁၉/၂၀၁၃-၂၀၁၄) နှင့် **၂၀-၂-၂၀၁၄** ရက်နေ့တွင် ကျင်းပပြုလုပ်သော **ပြည်ထောင်စုအစိုးရ အဖွဲ့ အစည်းအဝေး အမှတ်စဉ် ၄/၂၀၁၄** တို့မှ မူလ ငှားရမ်း သက်တမ်း ၁၅ နှစ်မှ **ကနဦး ၂၅ နှစ်နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်** တိုးမြှင့် ငှားရမ်းခွင့် ပြုခဲ့ပြီး ဆေးဝါး နှင့် စားသောက်ကုန်လုပ်ငန်းနှင့် Mother Trading Co., Ltd. တို့သည် ၁၆-၇-၂၀၁၄ ရက်နေ့တွင် ပြင်ဆင်ချက် သဘောတူ စာချုပ်အား လက်မှတ်ရေးထိုး ချုပ်ဆိုခဲ့ပါသည်။ ငှားရမ်း သက်တမ်းနှင့် ငှားရမ်းခတိုးမြှင့်လိုခြင်းတို့ကြောင့် မူလ စာချုပ်ကိုပြင်ဆင်သည့် စာချုပ်ချုပ်ဆိုရခြင်း ဖြစ်ကြောင်း ဖော်ပြထားပါသည်။<br>- ၇-၅-၂၀၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှု ဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူ ရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ အစည်းအဝေး အမှတ်စဉ် (၃/၂၀၁၅-၂၀၁၆) မှ Mother Trading Co., Ltd. အစား New General Industry Co., Ltd. အမည်သို့ ပြောင်းလဲ ဆောင်ရွက်ခွင့် ပြုခဲ့ပြီး ယခုအခါ ငှားရမ်းသက်တမ်း အား ၅၀+၁၀+၁၀ နှစ် ဖြင့်လုပ်ကိုင် ဆောင်ရွက်လိုခြင်းတို့ကြောင့် ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း)ထပ်မံ ချုပ်ဆိုရခြင်း ဖြစ်ပါသည်။ ၄င်းဒုတိယ အကြိမ် ပြင်ဆင်ရာတွင် အမှတ်(၁) ပလတ်စတစ် စက်ရုံ (ရန်ကုန်) နှင့် စက်ရုံခွဲ (မရမ်းကုန်း)၊ စက်ရုံခွဲ (မှော်ဘီ) စသည်ဖြင့် တည်နေရာ တစ်ခုချင်းအလိုက် ချုပ်ဆိုမည်ဖြစ်ပြီးသဘောတူစာချုပ်(မူကြမ်း)အားပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင် တင်ပြ ထားပါ သည်။<br>- အမှတ်(၁)ပလတ်စတစ်စက်ရုံ(ရန်ကုန်)နှင့်စက်ရုံခွဲ(မရမ်းကုန်း)၊ စက်ရုံခွဲ(မှော်ဘီ)တို့အား ငှားရမ်းသည့်ပြင်ဆင်ချက် သဘောတူ စာချုပ်နှင့်အမှတ် (၁)ပလတ်စတစ် စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း) အား ငှားရမ်းသည့် သဘောတူစာချုပ်များတွင် တစ်နှစ် ငှားရမ်းခ၏ ၁၀%နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်း ဆောင်ရွက်မှုအာမခံစပေါ်ငွေ (Performance Bank Guarantee) အဖြစ် ဆေးဝါးနှင့် စားသောက်ကုန် လုပ်ငန်း ငွေထုတ် စာရင်းသို့ ပေးသွင်း ထားရမည် ဖြစ်ကြောင်း ဖော်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - စက်မှုဝန်ကြီးဌာနမှ BOT စနစ်ဖြင့် ဆောင်ရွက်ခြင်းအပေါ် ပြည်ထောင်စု ရှေ့နေချုပ် ရုံးမှ BOT စနစ်အတွက် လိုအပ်သော အချက်အလက်များနှင့် ပြည့်စုံ ကိုက်ညီမှု ရှိရန် လိုအပ်မည် ဖြစ်ကြောင်း မှတ်ချက်ပြုထားပါသည်။ အဆိုပါ အချက်အား ကော်မရှင်မှ စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါး လုပ်ငန်းသို့ မေးမြန်းရာ ထပ်မံတပ်ဆင်မည့် စက်ပစ္စည်းများ အတွက် သက်တမ်းကုန်ဆုံးပါက ပြန်လည်လွှဲပြောင်းရာတွင် ပါဝင်နိုင်ရန် ဖြစ်ကြောင်း ဖြေကြား ပါသည်။<br>- ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် ၄/၂၀၁၄ (၂၀-၂-၂၀၁၄) မှ ကနဦး ၂၅ နှစ်နှင့် သက်တမ်းတိုး ၅နှစ် ၂ ကြိမ် ခွင့်ပြုခဲ့ခြင်းကို ကော်မရှင်မှ ခွင့်ပြု ပါက လုပ်ငန်းသက်တမ်းမှာ ၁-၇-၂၀၁၂ ရက်နေ့မှစတင်၍ ၃၀-၆-၂၀၃၇ အထိ ၂၅ နှစ် ဖြစ်ပါသည်။ ၂၅ နှစ် သက်တမ်း ကုန်ဆုံး ခါနီးတွင် အဆိုပြုတင်ပြသည့် ၅၀ နှစ် အတွက် ထပ်မံ သက်တမ်းတိုးခွင့်အား စက်မှုဝန်ကြီးဌာနမှ တင်ပြနိုင်ကြောင်း စိစစ်ရပါသည်။<br>- သစ်လွင်အထွေထွေ စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် ၂၀၁၅-၂၀၁၆ ဘဏ္ဍာနှစ် အတွက် အမှုပိတ် ထားပါကြောင်း ကုမ္ပဏီများဆိုင်ရာ အခွန်ရုံးမှ အခွန်တောင်းခံလွှာအား တင်ပြထားပါသည်။<br>စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း နှင့် သစ်လွင်အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် အမှတ်(၁)ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏စက်ရုံခွဲ(မရမ်းကုန်း)အား ငှားရမ်းသည့် သဘောတူစာချုပ်(မူကြမ်း) အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေး၊ အလုပ်သမားများ သက်သာချောင်ချိရေး အစီအစဉ် ၊ မီးဘေး ကာကွယ်ရေး အတွက် ဆောင်ရွက်ထားရှိမှု အစီအစဉ်များ၊ ဝန်ထမ်း၏ လစာနှင့် ပတ်သက်၍ နိုင်ငံတော်မှ ချမှတ်ထားသော လစာဝင်ငွေခွန် ဥပဒေအတိုင်း ဝင်ငွေခွန် ပေးသွင်းမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမှု အစီအစဉ်များကိုလည်း တင်ပြထားပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - PVC Pipe အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် အမှတ် (၁) ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း) အမှတ် ၂၉/ဘီ၊ ပေါ်တော်မူ ဘုရားလမ်း၊ သမိုင်း ၂ ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး။ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၇၀ သန်း |
| ရောင်းချမည့်စနစ် | - ပြည်ပ ၅၆% နှင့် ပြည်တွင်း ၄၄% ရောင်းချမည် ဖြစ်ပါသည်။ |
| လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ်၊ သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - ၆ နှစ် ၁၁ လ |
| IRR | - ၁၉% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၁၆(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | - |
| ၄ | ဝင်ငွေခွန် | ၂၀.၄၈ | ၇.၄၄၁ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ၈၅.၂၉ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၃.၆၄ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၉)ဦး |
| ၈ | CSR (၂%) | - | ၁.၇၇ |
| ၉ | မြေငှားရမ်းခရငွေ | - | ၁၃၆.၄၉ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၆၀) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၂၂.၆၄ သန်း | ကျပ် ၂၃၅.၈၀ သန်း |
| | Cost : Benefit | ၁ : ၁၀ | |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၃/မ-၁၃၂၁/၂၀၁၆( ၃၃၉ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၃ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့်သစ်လွင်အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်မှစက်မှုဝန်ကြီးဌာန၊မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် အမှတ်(၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း)တွင် PVC Pipe အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြ လာခြင်း ကိစ္စ**

၁။ သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါး လုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း ၂ ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ် ၂၉/ဘီ အမှတ် (၁) ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း) ရှိ မြေနှင့် ယင်း မြေပေါ်ရှိ အဆောက်အဦနှင့် ရုံးသုံး ပစ္စည်းများအား ငှားရမ်း၍ PVC Pipe အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ဦးအောင်မြတ်(အဘ-ဦးသိန်းမြင့်)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ BOT စနစ်ဖြင့်ဆောင်ရွက်ခွင့်ပြုပါရန်စက်မှုဝန်ကြီးဌာနမှတဆင့် အဆိုပြုတင်ပြလာပါသည်။ အဆိုပြုချက် နှင့် အတူ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက် အား တင်ပြထား ပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ မြေနှင့် အဆောက်အဦ ငှားရမ်းသက်တမ်းမှာ ကနဦး နှစ် ၅၀ နှင့် သက်တမ်းတိုး ၁၀နှစ် ၂ ကြိမ် ဖြစ်သော် လည်း ၂၀၁၂ ခုနှစ် ဇူလိုင်လ ၁ ရက်နေ့တွင် လက်မှတ်ရေးထိုး ချုပ်ဆိုပြီးဖြစ်ပါ၍ လက်ကျန် သက်တမ်း ၄၆ နှစ် ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်မည့်မြေဧရိယာ ၁.၁၈ ဧက (၄၇၇၅.၂၉၄၈ စတုရန်း မီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများ၊စက်ပစ္စည်းများအပါအဝင် နှစ်စဉ် ငှားရမ်းခ တစ်နှစ်လျှင် ကျပ် ၆၁.၂၀ သန်း ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ ကျပ် ၇၀ သန်း ဖြစ်ပြီး ငွေသား ကျပ် ၈.၈၀ သန်းနှင့် မြေငှားရမ်းခ ကျပ် ၆၁.၂၀ သန်းတို့ဖြင့် ရင်းနှီး မြှုပ်နှံမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၆၀ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၀၈,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော PVC Pipe များကို ပြည်ပ ၅၆% နှင့် ပြည်တွင်း ၄၄% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်(၆-နှစ်မြောက်) တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းချမည့် ဈေးနှုန်း များမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည် -

| အမျိုးအမည် | ပြည်ပ (၅၆%) | | ပြည်တွင်း(၄၄%) | |
|---|---|---|---|---|
| | အရေအတွက် (Ton) | ရောင်းဈေး (US$/Ton) | အရေအတွက် (Ton) | ရောင်းဈေး (ကျပ်/Ton) |
| PVC Pipe | ၆,၁၉၃ | ၁,၅၀၀ | ၄,၈၆၆ | ၁,၈၀၀,၀၀၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၉,၉၀၅.၃၀ |
| (ခ) | အသုံးစရိတ် | ၁၉,၉၀၁.၃၈ |
| (ဂ) | အသားတင်အမြတ် | ၃.၉၂ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ်(၁.၃၁) သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ ကျပ်(၄၁၇.၀၆)သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်း၏ အရင်းကြေကာလမှာ ၆ နှစ် ၁၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း (IRR)မှာ ၁၉% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁,၂၀၀ ကျပ်နှုန်းဖြင့် တွက်ချက် ထားပါသည်။

၈။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့နှင့် စက်မှုဝန်ကြီးဌာန တို့သို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါ အတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၄ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၅/၂၀၁၆၊ ဆုံးဖြတ်ချက်အပိုဒ် ၅၃ အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက် မှုအား ခွင့်ပြုသင့် ပါကြောင်း ထောက်ခံတင်ပြထားပါသည်။ **(နောက်ဆက်တွဲ-က)**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်း လုပ်ငန်းအဖွဲ့**မှအဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ပါ အချက်များ အတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြား ထားပါသည်-

(၁) အဆိုပြုလုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်း စေရန်အတွက် လုပ်ငန်း စီမံချက်များ ချမှတ်ခြင်း၊ လုပ်ငန်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် လုပ်ငန်း စနစ်များနှင့် စက်ပစ္စည်းများကို အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေး အကျိုးပြု လုပ်ငန်း များ (Corporate Social Responsibility - CSR) အတွက် အမြတ်ငွေ၏ (၂%) အား အသုံးပြုသွားရန် အပါအဝင် ကတိကဝတ်များ အတိုင်း လိုက်နာ အကောင် အထည်ဖော် ဆောင်ရွက်ရန်။

အား အသုံးပြုသွားရန် အပါအဝင် ကတိကဝတ်များ အတိုင်း လိုက်နာ အကောင် အထည်ဖော် ဆောင်ရွက်ရန်။

(၂) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့်အတိုင်း ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ချက် (Environmental Impact Assessment - EIA)ကို ဆောင်ရွက်ပြီး အစီရင်ခံစာအား ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ တင်ပြ အတည်ပြုချက် ရယူသွားရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များအား အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာ ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ် ပစ္စည်း/ စွန့်ပစ်အရည်/ အစိုင်အခဲ စီမံခန့်ခွဲမှု အစီအစဉ် စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ကို ရေးဆွဲ တင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များအတိုင်း လိုက်နာ ကျင့်သုံး အကောင် အထည်ဖော် ဆောင်ရွက်စေရန်။ **(သစ်လွင်အထွေထွေ စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် မှ တတိယ အဖွဲ့ အစည်း ဖြစ်သည့် NeoTech Myanmar Co., Ltd. သို့ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Initial Environmental Examination-IEE) အစီရင်ခံစာရေးဆွဲရန်အတွက် အလုပ်အပ်နှံထားပါကြောင်းတင်ပြ ထားပါသည်။)**

**(နောက်ဆက်တွဲ-ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန**မှ လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ကြောင်း၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာ ဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန်လိုအပ်ကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ သဘောထား မှတ်ချက် နှင့်အညီ ဆောင်ရွက်မည် ဖြစ်ကြောင်းတင်ပြထားပါသည်။)** **(နောက်ဆက်တွဲ-ဂ)**

၉။ ငွေကြေး အထောက်အထားအဖြစ် သစ်လွင် အထွေထွေ စက်မှု လုပ်ငန်း ကုမ္ပဏီလီမိတက် အမည်ဖြင့် မြန်မာ့စီးပွားရေး ဘဏ်တွင် (၂၇-၁-၂၀၁၆)နေ့တွင် ကျပ် ၁၇,၆၄၉,၅၄၉.၃၆နှင့် ရောဝတီ

ဘဏ်တွင် ဦးအောင်မြတ် အမည်ဖြင့် ၂၉-၂-၂၀၁၆ နေ့အထိ ကျပ် ၃၀,၀၀၉,၉၉၀ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ရေဂါလံ ၁၀၀,၀၀၀ ဆန့် ရေလှောင်ကန် ကြီးများကို မီးလောင်မှုမှ ကာကွယ်ရန် သံကူ၊ ကွန်ကရစ်ဖြင့် တည်ဆောက်မည် ဖြစ်ကြောင်း၊ ရေပုံး၊ မီးကပ်၊ မီးချိတ်၊ သဲအိတ်နှင့် မီးသတ် ဆေးဗူး များ ထားရှိမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်အတွင်း မီးဘေးအန္တရာယ်တားဆီးကာကွယ်ရန် စည်းကမ်း ချက်များ ထားရှိမည်ဖြစ်ပြီး ဝန်ထမ်းများအား စည်းကမ်း လိုက်နာစေမည် ဖြစ်ကြောင်း၊ မီးသတ်နည်းပညာများ၊ ကာကွယ်နည်းများကို လေ့ကျင့် သင်ကြားပေးမည် ဖြစ်ကြောင်းနှင့် လျှပ်စစ် အန္တရာယ်များ မဖြစ်ပေါ်အောင် ကြိုတင်ကာကွယ် သွားမည်ဖြစ်ကြောင်း၊ စက်မှု ဝန်ကြီးဌာနသို့ ပေးသွင်းရမည့် မြေငှားရမ်းခများကို တိကျမှန်ကန်စွာ ပေးသွင်းခြင်း၊ ပေးသွင်းရမည့် အခွန်အခများကို မှန်ကန်စွာ ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံ ကတိပြု တင်ပြထား ပါသည်။

၁၁။ ဝန်ထမ်းသက်သာ ချောင်ချိရေး အတွက် ပင်စင်ခံစားခွင့်အထိ အကျိုးဝင်အောင် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ လုပ်ငန်းချိန်အတွင်း ဝန်ထမ်းများအား ကျန်းမာရေးနှင့် ကိုက်ညီသည့် အဟာရပြည့် အစားအစာများကို လုပ်ငန်းချိန်အလိုက် ကျွေးမွေးမည် ဖြစ်ကြောင်း၊ အုပ်ချုပ်မှုပိုင်း တာဝန်ယူ ဆောင်ရွက်နိုင်ရန် အလားအလာရှိသူများအား အဆင့်မြင့်ပညာ ဆက်လက်ဆည်းပူးနိုင်ရန် အထောက်အပံ့များဖြင့် လေ့ကျင့်မွေးထုတ်ပေးရန် အစီအစဉ်များ ရှိပါကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် ကိုယ်ပိုင်ဂျင်နရေတာများဖြင့် ကုန်ထုတ်လုပ်မှု စဉ်ဆက်မပြတ်စေရေးအတွက် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြ ထားပါသည်။

၁၃။ ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်၏ ၂%ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၁၉ ရက်နေ့တွင် ကျင်းပသော (၃/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

၁၆။ **စိစစ်တင်ပြချက်**

(က) **ပစ္စည်းဝယ်ယူ ရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ**၏ ၆/၂၀၁၂-၂၀၁၃ (၈-၆-၂၀၁၂)၏ခွင့်ပြုချက်အရ ၂၀-၆-၂၀၁၂ ရက်စွဲဖြင့် ချုပ်ဆိုထားသော အမှတ်(၁)

ပလတ်စတစ် စက်ရုံ (ရန်ကုန်) နှင့် စက်ရုံခွဲ (မရမ်းကုန်း)၊ စက်ရုံခွဲ (မှော်ဘီ) တို့အား **၁-၇-၂၀၁၂ ရက်နေ့မှ စတင်၍** Mother Trading Co., Ltd. သို့ ငှားရမ်းသည့် သဘောတူ စာချုပ်အား တင်ပြ ထားပြီး ငှားရမ်း သက်တမ်းမှာ ၁၅ နှစ် ဖြစ်ပါသည်။

(ခ) ၁၉-၁၂-၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ ပစ္စည်း ဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာ ကော်မတီအစည်းအဝေး အမှတ်စဉ် (၁၉/၂၀၁၃-၂၀၁၄) နှင့် **၂၀-၂-၂၀၁၄** ရက်နေ့တွင် ကျင်းပပြုလုပ်သော **ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၄/၂၀၁၄** တို့မှ မူလ ငှားရမ်း သက်တမ်း ၁၅ နှစ်မှ **ကနဦး ၂၅ နှစ်နှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ်** တိုးမြှင့် ငှားရမ်းခွင့် ပြုခဲ့ပြီး ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်းနှင့် Mother Trading Co., Ltd. တို့သည် **၁၆-၇-၂၀၁၄** ရက်နေ့တွင် ပြင်ဆင်ချက် သဘောတူစာချုပ်အား လက်မှတ်ရေးထိုးချုပ်ဆို ခဲ့ပါသည်။ ငှားရမ်းသက်တမ်းနှင့် ငှားရမ်းခ တိုးမြှင့်လိုခြင်းတို့ကြောင့် မူလစာချုပ်ကို ပြင်ဆင်သည့် စာချုပ်ချုပ်ဆိုရခြင်းဖြစ်ကြောင်း ဖော်ပြထားပါသည်။

(ဂ) **၇-၅-၂၀၁၅** ရက်နေ့တွင် ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ ပစ္စည်း ဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာ ကော်မတီအစည်းအဝေး အမှတ်စဉ် (၃/၂၀၁၅-၂၀၁၆) မှ Mother Trading Co., Ltd. အစား New General Industry Co., Ltd. အမည်သို့ ပြောင်းလဲဆောင်ရွက်ခွင့် ပြုခဲ့ပြီး ယခုအခါ ငှားရမ်းသက်တမ်းအား ၅၀+၁၀+၁၀ နှစ် ဖြင့်လုပ်ကိုင် ဆောင်ရွက်လိုခြင်းတို့ကြောင့် ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း)ထပ်မံ ချုပ်ဆိုရခြင်းဖြစ်ပါသည်။ ၎င်းဒုတိယအကြိမ် ပြင်ဆင်ရာတွင် အမှတ်(၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်) နှင့် စက်ရုံခွဲ (မရမ်းကုန်း)၊ စက်ရုံခွဲ (မှော်ဘီ) စသည်ဖြင့် တည်နေရာ တစ်ခုချင်းအလိုက် ချုပ်ဆိုမည်ဖြစ်ပြီး သဘောတူစာချုပ်(မူကြမ်း)အား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြထားပါ သည်။

(ဃ) အမှတ်(၁)ပလတ်စတစ်စက်ရုံ (ရန်ကုန်) နှင့် စက်ရုံခွဲ (မရမ်းကုန်း)၊ စက်ရုံခွဲ (မှော်ဘီ) တို့အား ငှားရမ်းသည့်ပြင်ဆင်ချက် သဘောတူစာချုပ် နှင့် အမှတ် (၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ(မရမ်းကုန်း)အား ငှားရမ်းသည့် သဘောတူ စာချုပ်များတွင် တစ်နှစ် ငှားရမ်းခ၏ ၁၀%နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်း ဆောင်ရွက်မှုအာမခံစပေါ်ငွေ(Performance Bank Guarantee) အဖြစ် ဆေးဝါးနှင့် စားသောက်ကုန် လုပ်ငန်း ငွေထုတ်စာရင်း သို့ ပေးသွင်းထားရမည် ဖြစ်ကြောင်း ဖော်ပြ ထားပါ သည်။

(င) မူလစာချုပ်ချုပ်ဆိုသည့် ၁-၇-၂၀၁၂ ရက်နေ့မှ စတင်၍ ၃၀-၆-၂၀၆၂ အထိ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ငှားရမ်းခြင်း ဖြစ်ပြီး လက်ကျန် သက်တမ်းမှာ ၄၆ နှစ် ဖြစ်ပါသည်။

(စ) BOT စနစ်ဖြင့် ဆောင်ရွက်ခြင်းအပေါ် ပြည်ထောင်စု ရှေ့နေချုပ် ရုံးမှ BOT စနစ်အတွက် လိုအပ်သော အချက်အလက်များနှင့် ပြည့်စုံ ကိုက်ညီမှု ရှိရန် လိုအပ်မည်ဖြစ်ကြောင်းမှတ်ချက်ပြုထားပါသည်။ အဆိုပါအချက်အား ကော်မရှင်မှ စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းသို့ မေးမြန်းရာ ထပ်မံတပ်ဆင်မည့် စက်ပစ္စည်းများအတွက် သက်တမ်း ကုန်ဆုံးပါက ပြန်လည်လွှဲပြောင်းရာတွင်ပါဝင်နိုင်ရန် ဖြစ်ကြောင်း ဖြေကြားပါသည်။

(ဆ) ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် ၄/၂၀၁၄ (၂၀-၂-၂၀၁၄) မှ ကနဦး ၂၅ နှစ်နှင့် သက်တမ်းတိုး ၅နှစ် ၂ ကြိမ် ခွင့်ပြုခဲ့ခြင်းကို ကော်မရှင်မှ ခွင့်ပြုပါက လုပ်ငန်းသက်တမ်းမှာ ၁-၇-၂၀၁၂ ရက်နေ့မှစတင်၍ ၃၀-၆-၂၀၃၇ အထိ ၂၅ နှစ် ဖြစ်ပါသည်။ ၂၅ နှစ် သက်တမ်း ကုန်ဆုံးခါနီးတွင် အဆိုပြုတင်ပြသည့် ၅၀ နှစ်အတွက် ထပ်မံသက်တမ်းတိုးခွင့်အား စက်မှုဝန်ကြီးဌာနမှ တင်ပြနိုင်ကြောင်း စိစစ်ရပါသည်။

(ဇ) သစ်လွင်အထွေထွေ စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် ၂၀၁၅-၂၀၁၆ ဘဏ္ဍာနှစ်အတွက်အမှုပိတ်ထားပါကြောင်း ကုမ္ပဏီများဆိုင်ရာ အခွန်ရုံးမှ အခွန်တောင်းခံလွှာအား တင်ပြထားပါသည်။

(ဈ) PVC Pipe ၏ ထုတ်လုပ်ပုံ နည်းစဉ် အဆင့်ဆင့်နှင့် ထုတ်လုပ်မှု Process Flow Chart များအား တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါး လုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း ၂ ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ် ၂၉/ဘီ အမှတ် (၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်)၏ စက်ရုံခွဲ (မရမ်းကုန်း) ရှိ မြေနှင့် ယင်း မြေပေါ်ရှိ အဆောက်အဦနှင့် ရုံးသုံး ပစ္စည်းများအား ငှားရမ်း၍ PVC Pipe အမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

# စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် စက်ရုံမြေအား ငှားရမ်းဆောင်ရွက်ရသည့် လုပ်ငန်းကိစ္စများ (သစ်လွင်အထွေထွေစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်) (မရမ်းကုန်း)

| စဉ် | အကြောင်းအရာ | မူလစာချုပ်<br>အမှတ်(၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်) နှင့် စက်ရုံခွဲ (မရမ်းကုန်း)၊ စက်ရုံခွဲ (မှော်ဘီ) | ပထမအကြိမ် ပြင်ဆင်ချက်<br>အမှတ်(၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်) နှင့် စက်ရုံခွဲ (မရမ်းကုန်း)၊ စက်ရုံခွဲ (မှော်ဘီ) | ဒုတိယအကြိမ် ပြင်ဆင်ချက်<br>အမှတ်(၁) ပလတ်စတစ်စက်ရုံ (ရန်ကုန်) ၏ စက်ရုံခွဲ (မရမ်းကုန်း) |
|---|---|---|---|---|
| ၁ | လုပ်ငန်းသက်တမ်း | ၁၅ နှစ် | ၂၅ နှစ် | ၅၀ နှစ် |
| ၂ | ငှားရမ်းသက်တမ်း | - ၁-၇-၂၀၁၂ မှ ၃၀-၆-၂၀၂၇<br>- (၁၅ )နှစ် | - ၁-၇-၂၀၁၂ မှ ၃၀-၆-၂၀၃၇<br>- ၂၅ နှစ် (၂၅ + ၅ + ၅) | - ၁-၇-၂၀၁၂ မှ ၃၀-၆-၂၀၆၂<br>- ၅၀ နှစ် (၅၀+၁၀+၁၀) |
| ၃ | စတင်ငှားရမ်းသည့်နေ့ | - ၁-၇-၂၀၁၂ | - ၁-၇-၂၀၁၂ | - ၁-၇-၂၀၁၂ |
| ၄ | ငှားရမ်းခပထမနှစ် | - ကျပ် ၆၀.၀၀ သန်း | - ကျပ် ၆၀.၀၀ သန်း | - ကျပ် ၆၁.၂၀ သန်း |
| ၅ | ငှားရမ်းဧက | - ၁.၁၈ ဧက | - ၁.၁၈ ဧက | - ၁.၁၈ ဧက |
| ၆ | PBG | - | ၁ နှစ် ငှားရမ်းခ၏ ၁၀% နှင့် ညီမျှသော တန်ဖိုး | ၁ နှစ် ငှားရမ်းခ၏ ၁၀% နှင့် ညီမျှသော တန်ဖိုး |
| ၇ | ဝန်ထမ်းအရေအတွက် | - ၈၅ ဦး | - | - |
| ၈ | အဆောက်အဦအရေအတွက် | - ထုတ်လုပ်ရေးဌာနအပါအဝင် အဆောက်အဦ ၁၃ လုံး | - ထုတ်လုပ်ရေးဌာနအပါအဝင် အဆောက်အဦ ၁၃ လုံး | - ထုတ်လုပ်ရေးဌာနအပါအဝင် အဆောက်အဦ ၁၃ လုံး |
| ၉ | ရင်းနှီးပမာဏ | - | - | ကျပ် ၇၀.၀၀ သန်း |
| ၁၀ | စာချုပ်လက်မှတ်ထိုး သည့်နေ့ | - ၂၀-၆-၂၀၁၂ | - ၁၆-၇-၂၀၁၄ | - |
| ၁၁ | စာချုပ်ပြင်ဆင်ရသည့် အကြောင်းအရင်း | - | - မူလသက်တမ်း ၁၅ နှစ်မှ ၂၅ နှစ် သက်တမ်းနှင့် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် တိုးမြှင့်ငှားရမ်းလိုခြင်းနှင့် | - ကုမ္ပဏီ အမည်ပြင်ဆင်ခြင်းနှင့် ငှားရမ်းသက်တမ်း တိုးမြှင့် ပြင်ဆင်လိုခြင်းတို့ကြောင့် ဖြစ်ပါသည်။ |

| | | | | |
|---|---|---|---|---|
| | | | ငှားရမ်းခ တိုးမြှင့် ဆောင်ရွက်လိုခြင်း တို့ကြောင့် ဖြစ်ပါသည်။ | |
| ၁၂ | Cabinet အကြိမ်/နေ့စွဲ | - | ၄/၂၀၁၄ (၂၀-၂-၂၀၁၄)<br>(စက်ရုံ ၃ ရုံအတွက် အစိုးရအဖွဲ့မှ ခွင့်ပြုခြင်း ဖြစ်ပါသည်။) | |
| ၁၃ | EC | ၆/၂၀၁၂-၂၀၁၃<br>(၈-၆-၂၀၁၂) | ၁၉/၂၀၁၃-၂၀၁၄<br>(၁၉-၁၂-၂၀၁၄) | ၃/၂၀၁၅-၂၀၁၆ (၇-၅-၂၀၁၅) |
| ၁၄ | ရွှေနေချုပ်ရုံး သဘောထား မှတ်ချက် | | | အငှားချထားသည့် မြေပေါ်တွင် အဆောက်အဦ၊ စက်ရုံအသစ် ထပ်မံ ဆောက်လုပ်ပါက မည်သို့ ဆောင်ရွက် ရမည် ဆိုသည့် စည်းကမ်းချက် တစ်စုံ တစ်ရာ ဖော်ပြပါရှိခြင်း မရှိသည့် အတွက် ဌာနမှ ပြန်လည် စိစစ်ရန်၊ B.O.T စနစ်ဖြင့် ဆောင်ရွက်မည် ဆိုပါက ယင်းစနစ်အတွက် လိုအပ် သော အချက်အလက်များနှင့် ပြည့်စုံ ကိုက်ညီမှုရှိရန်လိုအပ်ကြောင်း |
| ၁၅ | ပြင်ဆင်ဖြည့်စွက်မှု | | မူလ သက်တမ်း ၁၅ နှစ်မှ ၂၅+၅+၅ နှစ်ထိ တိုးမြှင့် ပြင်ဆင်ခြင်း၊ စုစုပေါင်း ငှားရမ်းခ ကျပ် သန်း ၂၉၀ မှ ကျပ် ၂၉၅.၈၀ သန်းသို့ တိုးမြှင့်ခြင်း | ငှားရမ်းသက်တမ်း ပြင်ဆင်ခြင်း၊ စက်ရုံ တစ်ခုချင်းအလိုက် စာချုပ် ချုပ်ဆိုခြင်းနှင့် ကုမ္ပဏီအမည် ပြင်ဆင်ခြင်း |
| ၁၆ | အခြား | | | ၆/၂၀၁၅-၂၀၁၆ (၂၃-၆-၂၀၁၅) စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး ၏ သဘောတူခွင့်ပြုချက်အရ အမှတ် (၁)ပလတ်စတစ် စက်ရုံ (ရန်ကုန်) အားငှားရမ်းသည့် သဘောတူ စာချုပ် ချုပ်ဆိုရခြင်း ဖြစ်ပါသည်။ |
| | | | | BOT စနစ်ဖြင့် ဆောင်ရွက်ခြင်းအပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံးမှ BOT စနစ်အတွက် လိုအပ်သော အချက် |

| | | | | |
|---|---|---|---|---|
| | | | | အလက်များနှင့် ပြည့်စုံ ကိုက်ညီမှု ရှိရန် လိုအပ်မည် ဖြစ်ကြောင်း မှတ်ချက် ပြုထားပါသည်။ အဆိုပါ အချက်အား ကော်မရှင်မှ စက်မှုဝန်ကြီး ဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းသို့ မေးမြန်းရာ ထပ်မံ တပ်ဆင်မည့် စက်ပစ္စည်း များအတွက် သက်တမ်း ကုန်ဆုံး ပါက ပြန်လည် လွှဲပြောင်းရာတွင် ပါဝင်နိုင်ရန် ဖြစ်ကြောင်း ပြောကြားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၂. ၁. ၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက-၃/ မ-၁၃၂၁/၂၀၁၆(၁၁၆ ဃ)

၁။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း(၂)ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ်-၂၉/ဘီ၊ အမှတ်(၁)ပလတ်စတစ်စက်ရုံ၏ စက်ရုံခွဲ(မရမ်းကုန်း)ရှိ မြေနှင့် ယင်းမြေပေါ်ရှိအဆောက်အဦနှင့် ရုံးသုံးပစ္စည်းများအားငှားရမ်း၍ PVC Pipe အမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း(၂)ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ်-၂၉/ဘီ၊ အမှတ်(၁) ပလတ်စတစ်စက်ရုံ၏ စက်ရုံခွဲ(မရမ်းကုန်း)ရှိ မြေနှင့်အဆောက်အဦများကို တစ်နှစ်လျှင် ငွေကျပ်(၆၁. ၂)သန်းနှုန်းဖြင့် (၅၀+၁၀+၁၀)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၄. ၂. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၅/ ၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၃)အရ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက် ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း တောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မရမ်းကုန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
သစ်လွင် အထွေထွေစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

i)/2016/Cabinet/5.,(24)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၄၂၂၉)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၃ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂.၁.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃/မ-၁၃၂၁/၂၀၁၆ (၁၁၆-င)

၁။ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း (၂)ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ် ၂၉/ဘီ အမှတ်(၁)ပလတ်စတစ်စက်ရုံ၏ စက်ရုံခွဲ (မရမ်းကုန်း)တွင် PVC Pipe အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် PVC Pipe အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) စက်မှုဝန်ကြီးဌာနနှင့် ချုပ်ဆိုသည့် သဘောတူစာချုပ်တွင် အငှားချထားခြင်းခံရသူမှ ပလတ်စတစ်ရှီတင်အမျိုးမျိုး၊ သားရေတုနှင့် ဘိလပ်မြေအိတ်ခွံများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများနှင့် ယင်းနှင့်ဆက်စပ်သည့်လုပ်ငန်းများ ဆောင်ရွက်ရန် ချုပ်ဆိုထားပါသည်။

(စ) စက်ပစ္စည်းများအား ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပြီး စက်ပစ္စည်းတင်ပြချက် သင့်လျော်မှု ရှိပါသည်။

(ဆ) ကုန်ကြမ်းသုံးစွဲမှုနှင့် ကုန်ချောထွက်ရှိမှု တင်ပြချက် ကိုက်ညီမှု ရှိပါသည်။

(ဇ) ကုန်ချောပစ္စည်းများကို ပြည်တွင်း၌ ၄၄% နှင့် ပြည်ပသို့ ၅၆% တင်ပို့ရောင်းချမည်ဖြစ်ပါသည်။

၃။ သို့ပါ၍ သစ်လွင် အထွေထွေစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ PVC Pipe အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၃.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/MIC(OSS)/ECD/၀၁(၃၉/၁၆)
ရက်စွဲ ၊၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၁၅ ရက်

M-296
16/2/16

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သစ်လွင်အထွေထွေစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ PVC Pipe အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၃/ မ-၁၃၂၁/ ၂၀၁၆(၁၁၀)

၁။ သစ်လွင်အထွေထွေစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း(၂)ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ်(၂၉/ဘီ)၊ အမှတ်(၁)ပလပ်စတစ်စက်ရုံ၏စက်ရုံခွဲ(မရမ်းကုန်း)ရှိ မြေ ၁.၁၈ ဧကနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦနှင့်ရုံးသုံးပစ္စည်းများငှားရမ်း၍ PVC Pipe အမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍စီစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁)နှစ်ဖြစ်ကြောင်း ထုတ်လုပ်မှု အနေဖြင့် ပထမနှစ်တွင် PVC Pipe 5544 Tonနှင့်(၁၀)နှစ်အတွင်း 10458 Ton အထိ တိုးမြှင့်ထုတ်လုပ်သွားမှာဖြစ်ကြောင်း၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးအကျိုးပြုလုပ်ငန်းများ ( Corporate Social Responsibility -CSR )လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ကြောင်း

ဖော်ပြပါရှိပါသည်။

၃။ သစ်လွင်အထွေထွေစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ PVC Pipe အမျိုးမျိုးထုတ်လုပ်ခြင်းကြောင့်ထွက်ရှိလာမည့် အခိုးအငွေ့များ၊ စွန့်ပစ်ပစ္စည်းများ၊ ဆူညံသံများကြောင့် သဘာဝပတ်ဝန်းကျင်ကိုထိခိုက်စေခြင်း အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းများဖြစ်သည့် PVC , Silicone နှင့် Polypropylene စသည့် ဓာတုပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန်နှစ်ပေါင်းအချိန်ကြာမြင့်ခြင်း၊ ကုန်ကြမ်းပစ္စည်းများကို အသုံးပြုရာမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်အရည်များကြောင့် ပတ်ဝန်းကျင်ရှိမြေထုနှင့်ရေထုညစ်ညမ်းမှုဖြစ်ပေါ်စေခြင်း၊ PVC ပလပ်စတစ်သည် မီးလောင်ရန်လွယ်ကူသောပစ္စည်းတစ်မျိုးဖြစ်ပြီး လုပ်ငန်းအဆင့်ဆင့်မှထွက်ပေါ်လာမည့် Polymeric dust နှင့်အခိုးအငွေ့များကြောင့် လေထုညစ်ညမ်းခြင်း၊ ဓာတုအဆိပ် (ဒိုင်အောက်စင်)များထွက်ရှိခြင်း၊ ဒိုင်အောက်စင်ဓာတ်ငွေ့ကြောင့် ကင်ဆာအမျိုးမျိုးဖြစ်စေနိုင်ခြင်း၊ ဝန်ထမ်းများ၏ အဆုတ်နှင့်အသက်ရှူလမ်းကြောင်းဆိုင်ရာ ကျန်းမာရေးကိုဆိုးရွားစွာထိခိုက်စေခြင်းစသော လူနှင့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ သစ်လွင်အထွေထွေစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ PVC Pipe အမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများဆောင်ရွက်ခြင်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များချမှတ်ခြင်း၊ လုပ်ငန်းအဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များနှင့်စက်ပစ္စည်းများကို အသုံးပြုခြင်း၊ အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ ( Corporate Social Responsibility –CSR )အတွက်အမြတ်ငွေ၏(၂%)အား အသုံးပြုသွားရန်အပါအဝင် ကတိကဝတ်များအတိုင်း လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့်အတိုင်း ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact

Assessment-EIA )ကို ဆောင်ရွက်ပြီးအစီရင်ခံစာအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူသွားရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များအား အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ အစိုင်အခဲစီမံခန့်ခွဲမှုအစီအစဉ် စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan - EMP )ကို ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင် ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ/ နည်းဥပဒေ/ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်

# NEW GENERAL INDUSTRY COMPANY LIMITED

မှ

စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင်

အမှတ်(၁) ပလတ်စတစ်စက်ရုံ(ရန်ကုန်)၏ စက်ရုံခွဲ(မရမ်းကုန်း)ရှိ

မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦ နှင့် ရုံးသုံးပစ္စည်းများအား ငှားရမ်း၍

**PVC PIPE** အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချမည့်

ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက်

"အဆိုပြုလွှာ တင်ပြချက်"



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၃-စမ(၂)၂၀၁၅-၂၀၁၆(၃၀၂၃)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **ငှားရမ်းရေးသဘောတူစာချုပ်(မူကြမ်း) (၃)စုံပေးပို့ခြင်း**

ရည် ညွှန်း ချက်။ စက်မှုဝန်ကြီးဌာန၏ ၃၀.၁၂.၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၂၃-စမ(၂)၂၀၁၄-၂၀၁၅(၄၄၉၀)

၁။ စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းရှိ အမှတ်(၁)ပလတ်စတစ်စက်ရုံ(ရန်ကုန်) (မရမ်းကုန်းနှင့် မှော်ဘီရှိ စက်ရုံခွဲများ အပါအဝင်)ကို Mother Trading Co., Ltd. သို့ မူလငှားရမ်းကာလ(၂၅+ ၅+ ၅)နှစ်အစား (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်ပါစာဖြင့် တင်ပြခဲ့ရာ ၁၉.၁.၂၀၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးအမှတ်စဉ်(၃/၂၀၁၅)မှ ငှားရမ်းစက်ရုံများမှာ တည်နေရာသီးခြားစီတည်ရှိနေခြင်း၊ စက်မှုလုပ်ငန်းလိုင်စင်လျှောက်ထားရန်နှင့် အခွန်ထမ်းဆောင်ရာတွင် မြို့နယ်အလိုက် သီးခြားဆောင်ရွက်ရမည်ဖြစ်ခြင်းတို့ကြောင့် စက်ရုံ(၃)ရုံအတွက် သီးခြားစာချုပ်(၁)စုံစီပြုစု၍ ပြန်လည်တင်ပြရန် အကြံပြုခဲ့ကြောင်း သိရှိရပါသည်။

၂။ Mother Trading Co., Ltd. အနေဖြင့် လုပ်ငန်းများဆောင်ရွက်ရာတွင် အဆင်ပြေစေရေးအတွက် ကုမ္ပဏီအမည်အား Mother Trading Co., Ltd. အစား New General Industry Co., Ltd. အမည်ဖြင့် ပြောင်းလဲဆောင်ရွက်ရေးကိစ္စကို စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေးမှ သဘောတူခွင့်ပြုထားပြီးဖြစ်ပါသည်။

၃။ သို့ပါ၍ မြန်မာ့ဆေးဝါးလုပ်ငန်းရှိ အမှတ်(၁)ပလတ်စတစ်စက်ရုံ(ရန်ကုန်) (မရမ်းကုန်းနှင့်မှော်ဘီရှိ စက်ရုံခွဲများအပါအဝင်)ကို ငှားရမ်းဆောင်ရွက်လျက်ရှိသော New General Industry Co., Ltd. သို့ ပလတ်စတစ်ထုတ်ကုန်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများအား အဆင့်မြှင့်တင်ဆောင်ရွက်နိုင်ရေးအတွက် B.O.T စနစ်ဖြင့် ကနဦး(၅၀)နှစ် (၁၀)နှစ်(၂)ကြိမ် သက်တမ်းတိုးဖြင့်ဆောင်ရွက်ခွင့်ပြုပါရန်နှင့် စက်ရုံ(၁)ရုံစီအလိုက် ပြုစုထားသော စာချုပ်(မူကြမ်း)(၃)စောင်ကို ပူးတွဲပေးပို့အပ်ပါသည်။

၇.၁၂.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

D/Dec(2015)mm.doc-24

# သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်

## (NEW GENERAL INDUSTRY COMPANY LIMITED)

**PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချမည့် လုပ်ငန်းအား ရင်းနှီးမြှုပ်နှံခွင့်ပြုပါရန် အဆိုပြုလွှာ တင်ပြခြင်း**

**အညွှန်း**

| | | |
|---|---|---|
| ၁။ | ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်မည့်လုပ်ငန်းအား ခွင့်ပြုပေးပါရန် အဆိုပြု တင်ပြစာ | |
| ၂။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားစာ | |
| ၃။ | မနသ ပုံစံ(၁) | |
| ၄။ | ကတိဝန်ခံချက် | |
| ၅။ | ဝန်ထမ်းသက်သာ ချောင်ချိရေး အစီအစဉ် | |
| ၆။ | မီးဘေးကာကွယ်မှု အစီအစဉ် | |
| ၇။ | သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ် | |
| ၈။ | လူမှုရေးအကျိုးပြုလုပ်ငန်းများအတွက် လျာထားသုံးစွဲမည့် အစီအစဉ် | |
| ၉။ | စက်ရုံခွဲ (မရမ်းကုန်း)၏ ဓါတ်ပုံများ | |
| ၁၀။ | စက်ရုံခွဲ (မရမ်းကုန်း)တွင် တပ်ဆင်ထားသည့် စက်နှင့်စက်ပစ္စည်းများ၏ ဓါတ်ပုံများ | |
| ၁၁။ | စက်ရုံခွဲ (မရမ်းကုန်း) မှ ထုတ်လုပ်မည့်ပစ္စည်း ဓါတ်ပုံများ | |
| ၁၂။ | အစုရှယ်ယာရှင်များ နှင့် ဒါရိုက်တာများစာရင်း | နောက်ဆက်တွဲ – (၁) |
| ၁၃။ | ဆောင်ရွက်မည့်လုပ်ငန်းများအတွက် ရင်းနှီးမြှုပ်နှံမှုစာရင်းများ အစီအစဉ် | နောက်ဆက်တွဲ – (၂) မှ နောက်ဆက်တွဲ – (၁၀) |
| ၁၄။ | စက်မှုဝန်ကြီးဌာန မြန်မာ့ဆေးဝါးလုပ်ငန်းမှ မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦနှင့် စက်ပစ္စည်းများအား ငှားရမ်းခြင်း သဘောတူစာချုပ် | နောက်ဆက်တွဲ – (၁၁) |
| ၁၅။ | ဘဏ္ဍာရေးအချက်အလက်များနှင့် အထောက်အထား စာရွက်စာတမ်းများ | နောက်ဆက်တွဲ – (၁၂) |
| ၁၆။ | ကုမ္ပဏီဆိုင်ရာ အထောက်အထား စာရွက်စာတမ်းများ | နောက်ဆက်တွဲ – (၁၃) |

**New General Industry Co., Ltd.**
No.(151), 9th Floor, Tower (A), Corner of Bogyoke Aung San Road And Wardan Street,(8) Ward, Lanmadaw Township, Yangon.Tel : 95-1-227757~60

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊
**ရန်ကုန်မြို့။**

ရက်စွဲ။ ။ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ၊ ( )ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။**

အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များ မြန်မာနိုင်ငံသား၊ တိုင်းရင်းသား လုပ်ငန်းရှင်များမှ ပိုင်ဆိုင်သော သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (New General Industry Co., Ltd,)သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ သမိုင်း(၂)ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ်(၂၉/ဘီ)တွင် တည်ရှိသော စက်ရုံခွဲ(မရမ်းကုန်း)ကို ငှားရမ်းပြီး PVC PIPE အမျိုးမျိုး ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်း လုပ်ငန်းများကို နိုင်ငံတကာအဆင့်မီ သေသပ်၊ လုပစ္စာဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။ အဆိုပါလုပ်ငန်းအား ခေတ်မီစက်ပစ္စည်း၊ နည်းပညာများဖြင့် လုပ်ကိုင်ပြီး ပြည်တွင်းဈေးကွက်တွင် ထုတ်လုပ်၊ ရောင်းချခြင်းကို လုပ်ကိုင်လိုပါသည်။

သို့ဖြစ်ပါ၍ PVC PIPE အမျိုးမျိုး ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်း လုပ်ငန်းများအား ရင်းနှီးမြှုပ်နှံမှုလုပ်ကိုင်မည့်အဆိုပြုချက်ကို တင်ပြ၊ ပေးပို့၊ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

U AUNG MYAT
MANAGING DIRECTOR
NEW GENERAL INDUSTRY CO., LTD.

**New General Industry Co., Ltd.**
No.(151), 9th Floor, Tower (A), Corner of Bogyoke Aung San Road And Wardan Street,(8) Ward, Lanmadaw Township, Yangon.Tel : 95-1-227757~60

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊
<u>ရန်ကုန်မြို့။</u>

ရက်စွဲ။ ။ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ၊ ( )ရက်။

အကြောင်းအရာ။ ။ **<u>သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ နိုင်ငံတကာ အဆင့်မီ PVC PIPE အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအား ခွင့်ပြုပေးပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။</u>**

အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဥ်း၍ ကျွန်တော်များ မြန်မာနိုင်ငံသား၊ တိုင်းရင်းသား လုပ်ငန်းရှင်များမှ ပိုင်ဆိုင်သော ကုမ္ပဏီဖြစ်သည့် **သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်** (New General Industry Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း(၂)ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ်(၂၉/ဘီ)တွင် တည်ရှိသော စက်ရုံခွဲ(မရမ်းကုန်း)တွင် PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချခြင်း လုပ်ငန်းအား ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။

ဤသို့ လုပ်ကိုင်၊ ဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံသော လုပ်ငန်းရပ်မှ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်၊ အခွင့်အလမ်းများ ရရှိစေခြင်းနှင့် နိုင်ငံတော်တွင် အခွန်အခများရရှိစေခြင်း စသည့်အကျိုးကျေးဇူး များကို ရရှိနေနိုင်သည့်အပြင် နိုင်ငံတကာအဆင့်မီ PVC PIPE အမျိုးမျိုးအား မြန်မာနိုင်ငံသားများမှ ဈေးနှုန်း သက်သာစွာ ဝယ်ယူသုံးစွဲနိုင်ရုံသာမက ပြည်ပသို့ တင်ပို့၊ ရောင်းချခြင်းအတွက် နိုင်ငံခြားဝင်ငွေရရှိနိုင်သော လုပ်ငန်းရပ်ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံမှုကို ခွင့်ပြုပေးပါရန် ဤအဆိုပြုချက်အား တင်ပြ၊ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

U AUNG MYAT
MANAGING DIRECTOR
NEW GENERAL INDUSTRY CO., LTD.

NGI New General Industry Co., Ltd.
No.(151), 9th Floor, Tower (A), Corner of Bogyoke Aung San Road And
Wardan Street,(8) Ward, Lanmadaw Township, Yangon.Tel : 95-1-227757~60

သို့
ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊
<u>ရန်ကုန်မြို့။</u>

ရက်စွဲ။ ။ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ၊ (    )ရက်။

အကြောင်းအရာ။ ။ **<u>မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအား လျှောက်ထားခြင်း။</u>**

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (New General Industry Company Limited) သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း(၂)ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ်(၂၉/ဘီ)တွင် တည်ရှိသော စက်ရုံခွဲ(မရမ်းကုန်း)တွင် PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချခြင်း လုပ်ငန်းများအား ဆောင်ရွက်ပါမည်။

ဤလုပ်ငန်းအား နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများရရှိစေရန်နှင့် မြန်မာနိုင်ငံအတွင်း ပြည်တွင်းသုံးစွဲမှုကို ဖူလုံစေရုံသာမက ပြည်ပသို့တင်ပို့၍ နိုင်ငံခြားဝင်ငွေရရှိစေရန်တို့အတွက် ရင်းနှီးမြှုပ်နှံ၍ လုပ်ကိုင်သောလုပ်ငန်းဖြစ်ပါသောကြောင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကို ခွင့်ပြုပေးပါရန် တင်ပြ၊ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

U AUNG MYAT
MANAGING DIRECTOR
NEW GENERAL INDUSTRY CO., LTD.

New General Industry Co., Ltd.
No.(151), 9th Floor, Tower (A), Corner of Bogyoke Aung San Road And Wardan Street,(8) Ward, Lanmadaw Township, Yangon.Tel : 95-1-227757~60

သို့

ဥက္ကဋ္ဌ၊

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊

<u>ရန်ကုန်မြို့။</u>

ရက်စွဲ ။ ။၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ၊ ( )ရက်။

အကြောင်းအရာ။ ။ **<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေတို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအား လျှောက်ထားခြင်း။</u>**

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် ကျွန်တော်များ သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (New General Industry Company Limited)သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ သမိုင်း(၂)ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ်(၂၉/ဘီ)တွင် တည်ရှိသော စက်ရုံခွဲ (မရမ်းကုန်း)တွင် PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ပါမည်။

မြေငှားရမ်းခကို စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းသို့ သတ်မှတ်ချိန်အတိုင်း မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦးနှင့် ရုံးသုံးပစ္စည်းများအား ငှားရမ်းသည့် သဘောတူစာချုပ်အရ ပေးသွင်းပါမည်။ မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦးနှင့် ရုံးသုံးပစ္စည်းများအား ငှားရမ်းသည့် သဘောတူစာချုပ်အရ လိုက်နာရမည့်ကိစ္စရပ်များကိုလည်း လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါသည်။

ကျွန်တော်များကုမ္ပဏီ၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ ကျပ်သန်း (၇၀) ဖြစ်၍ လုပ်ငန်းသုံး စက်ပစ္စည်းများနှင့် လုပ်ငန်းအတွက်လိုအပ်သော ကုန်ကြမ်းပစ္စည်းများကို ပြည်ပမှ မှာယူတင်သွင်းမည် ဖြစ်ပါသည်။ အရည်အသွေးကောင်းမွန်သော PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချခြင်းတွင် အသုံးပြုမည့် ပြည်ပမှ မှာယူလိုသော စက်ပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများ၏ တန်ဖိုးနှင့် ကုမ္ပဏီလည်ပတ်မှုအတွက် ထည့်ဝင်မည့် ငွေသားတို့အတွက် အသေးစိတ်စာရင်းများကို တင်ပြထားပါသည်။

ထို့အပြင် PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချခြင်း လုပ်ငန်းတွင် ရငွေနှင့် အသုံးစရိတ်စာရင်း (Income & Expenditure Account) ကိုလည်း နိုင်ငံတော်သို့ ပေးသွင်းရမည့် အခွန်ငွေများကိုပါ ထည့်သွင်း တွက်ချက်၍ အသေးစိတ် ဖော်ပြထားပါသည်။ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်နှင့် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်နေရာများ ပေါ်ပေါက်စေရေးတို့အတွက် PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချခြင်း လုပ်ငန်းအား ခွင့်ပြုပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကိုလည်း ခွင့်ပြုပေးပါရန် တင်ပြ၊ လျှောက်ထားအပ်ပါသည်။

New General Industry Co., Ltd.
No.(151), 9th Floor, Tower (A), Corner of Bogyoke Aung San Road And Wardan Street,(8) Ward, Lanmadaw Township, Yangon.Tel : 95-1-227757~60

သို့ဖြစ်ပါ၍ အောက်ဖော်ပြပါ အဆိုပြုလွှာများနှင့် လျှောက်လွှာများကို အထောက်အထားစာရွက်စာတမ်းများဖြင့် ပူးတွဲ၍ တင်ပြအပ်ပါသည်။

(က) ကမကထပြုသူ၏ လုပ်ငန်းအဆိုပြုချက်၊

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် စပ်လျဉ်း၍ တွက်ချက်မှုဇယားများ၊

(ဂ) မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၏ စာရွက်စာတမ်း အထောက်အထားများ၊

(ဃ) ငွေကြေးအထောက်အထား စာရွက်စာတမ်းများ၊

(င) ထုတ်လုပ်သော ပလပ်စတစ်ပစ္စည်းထုတ်ကုန်အမျိုးမျိုး၏ ဓါတ်ပုံများ၊

(စ) အသုံးပြုသော စက်ပစ္စည်းများ၏ ဓါတ်ပုံများ၊

လေးစားစွာဖြင့်

U AUNG MYAT
MANAGING DIRECTOR
NEW GENERAL INDUSTRY CO., LTD.

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ-၁)

## မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
## ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
## [ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊ 001/( )/MIC/2016
ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ၊ ( )ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏-

(က) အမည် - ဦးအောင်မြတ်

(ခ) အဖအမည် - ဦးသိန်းမြင့်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် - ၁၂/ဥကတ (နိုင်) ၀၂၃၀၃၉

(ဃ) နေရပ်လိပ်စာ - အမှတ်-(၃၇)၊ ဝေဇယန္တာလမ်း၊ (၉)ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) လူမျိုး၊ ဘာသာ - ဗမာ၊ ဗုဒ္ဓဘာသာ။

(စ) အဖွဲ့အစည်း အမည် - သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်၊

(ဆ) လုပ်ငန်း အမျိုးအစား - PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချခြင်း။

(ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် - အမှတ်-(၁၅၁)၊ ၉-လွှာ၊ တာဝါ(အေ)၊ ဗိုလ်ချုပ်အောင်ဆန်းနှင့် ဝါးတန်းလမ်းထောင့်၊ (၈) ရပ်ကွက်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏

(က) အမည် - မရှိပါ.

(ခ) အဖအမည် - -

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် – –

(ဃ) နေရပ်လိပ်စာ – –

(င) လူမျိုး၊ ဘာသာ – –

(စ) အဖွဲ့အစည်း အမည် – –

(ဆ) လုပ်ငန်း အမျိုးအစား – –

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြပူးတွဲရန်)

၃။ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား –

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း – PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချခြင်း။

(ခ) ဝန်ဆောင်မှုလုပ်ငန်း –

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ–

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..........................................................................................................................

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..........................................................................................................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

..........................................................................................................................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန်–

(က) တစ်ဦးတည်းပိုင် ..........................................................................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း ..........................................................................

(ဂ) လီမိတက်ကုမ္ပဏီ **သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်**

(ဃ) သမဝါယမအသင်း ..........................................................................

(အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့်မတည် ငွေရင်း အချိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက–

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအချိုးအစားနှင့် ပမာဏ

..........................................................................................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား

..........................................................................................................................

(ဂ) အစုဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ

..........................................................................................................................

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမအသင်း၊ လီမိတက်ကုမ္ပဏီဖြစ်ပါက –

(က) ခွင့်ပြုမတည်ငွေရင်း – ကျပ် (၅၀၀,၀၀၀,၀၀၀/–)
(ကျပ်သန်းငါးရာတိတိ)

(ခ) အစုရှယ်ယာ အမျိုးအစား – ကျပ် ၁၀,၀၀၀/– တန် အစုရှယ်ယာပေါင်း
– ၅၀,၀၀၀ (ငါးသောင်းတိတိ)

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ – ကျပ် ၁၅၀,၀၀၀,၀၀၀/–

**မှတ်ချက်။ အဆိုပြုလုပ်ငန်းအတွက် ကော်မရှင်၏ခွင့်ပြုချက်ရရှိပါက ခွင့်ပြုမတည်ငွေရင်းကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့်အညီ တိုးမြှင့်ပြင်ဆင် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။**

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ –

(က) မတည်ငွေရင်းပမာဏ(ကျပ်)

| | | အမေရိကန်ဒေါ်လာ | ကျပ် | စုစုပေါင်း ညီမျှသောကျပ် (1 US$ = ၁၂၀၀ ကျပ်) |
|---|---|---|---|---|
| (၁) | မြေငှားခ | – | ၆၁,၂၀၀,၀၀၀ | ၆၁,၂၀၀,၀၀၀ |
| (၂) | လုည့်လည်ငွေရင်း | – | ၈,၈၀၀,၀၀၀ | ၈,၈၀၀,၀၀၀ |
| | **စုစုပေါင်း** | – | **၇၀,၀၀၀,၀၀၀** | **၇၀,၀၀၀,၀၀၀** |

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်

| | | အမေရိကန်ဒေါ်လာ | ညီမျှသောကျပ် (1 US$ = ၁၂၀၀ ကျပ်) |
|---|---|---|---|
| (၁) | စက်ပစ္စည်းကိရိယာများ | – | – |
| (၂) | ကုန်ကြမ်းပစ္စည်းများတင်သွင်းရန် တန်ဖိုးပမာဏ (Test Run) | – | – |
| | **စုစုပေါင်း** | – | – |

(ဂ) တည်ဆောက်မှုကာလ/တပ်ဆင်မှုကာလ – (၁) နှစ်

(ဃ) ပဏာမ စူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ – –

(င) တည်ဆောက်မှု စတင်မည့်အချိန် – မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရပြီး (၆) လအတွင်း

(စ) ရင်းနှီးမြှုပ်နှံမှုကာလ – နှစ် (၅၀) + (၁၀)နှစ် + (၁၀)နှစ်

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ–

(က) လုပ်ငန်းအမျိုးအစား – PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချခြင်း။

(ခ)ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ – **ပလပ်စတစ်စက်ရုံခွဲ(မရမ်းကုန်း)** အမှတ်(၂၉/ဘီ)၊ ပေါ်တော်မူဘုရားလမ်း၊ သမိုင်း(၂)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် – PVC PIPE အမျိုးမျိုး ထုတ်လုပ်သည့် စက်များဖြင့် ထုတ်လုပ်မည် ဖြစ်ပါသည်။

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် –

| အမျိုးအစား | အရေအတွက် |
|---|---|
| ဒီဇယ် | (၃၀၀၀) ဂါလံ |
| ဓါတ်ဆီ | (၃၀၀၀) ဂါလံ |
| စက်ဆီ၊ချောဆီ | (၃၀၀၀) ဂါလံ |
| မီးထိုးဆီ | (၃၀၀၀) ဂါလံ |

(င) နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက်–

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | 30,000,000 ကီလိုဝပ်နာရီ |
| ၂။ | ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | 550 KVA x 3 No |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | ......................... |
| ၄။ | သဘာဝဓာတ်ငွေ့သုံးစက်အား | ......................... |
| ၅။ | ပေးပို့သည့်အခြားအား (ရေအား/လေအားစသည်များ) | ......................... |

(စ) နှစ်စဉ် ရေလိုအပ်ချက် – (၃၆၀၀၀) ဂါလံ
(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်) – (၁၀၀) ဂါလံ

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် – နောက်ဆက်တွဲ (၃)

(ဇ) အဆောက်အအုံလိုအပ်ချက် – –

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက် – စက်မှုဝန်ကြီးဌာနပိုင်မြေ

**စက်ရုံခွဲ(မရမ်းကုန်း) ၁.၁၈ ဧက**

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း – နောက်ဆက်တွဲ (၈)
ဆောင်ရွက်မည့်ဝန်ဆောင်မှု(နှစ်စဉ်)

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ–

| | | ခန့်မှန်းခြေ | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ | နောက်ဆက်တွဲ – (၂) | |
| (ခ) | လိုအပ်မည့် နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲ – (၂) | |
| (ဂ) | ရရှိမည့် နိုင်ငံခြားသုံး ငွေပမာဏ | နောက်ဆက်တွဲ – (၆) | |
| (ဃ) | ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ | နောက်ဆက်တွဲ – (၆) | |
| (င) | နှစ်စဉ်ပြည်တွင်းရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | နောက်ဆက်တွဲ – (၆) | |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများ စာရင်း–

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ – နောက်ဆက်တွဲ – (၄)

(ခ) နိုင်ငံခြားမှလိုအပ်မည့်ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ – နောက်ဆက်တွဲ – (–)

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ–

| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲ – (၆) | |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲ – (၅) | |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲ – (၈) | |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲ – (၂) | |
| (င) | အရင်းကျေကာလ | နောက်ဆက်တွဲ – (၈) | |
| (စ) | အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲ – (၁၀) | |
| (ဆ) | အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ | နောက်ဆက်တွဲ – (၄) | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) စက်မှုဝန်ကြီးဌာန ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်းမှ မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦနှင့် စက်ပစ္စည်းများအား ငှားရမ်းခြင်း သဘောတူစာချုပ်၊

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများ၊

(ဂ) သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီစာရွက်စာတမ်း အထောက်အထားများ၊

လက်မှတ်၊ ..........................................

အမည်၊ ဦးအောင်မြတ်

ရာထူး၊ မန်နေဂျင်းဒါရိုက်တာ
(လျှောက်ထားသူ)

**NGI** New General Industry Co., Ltd.
No.(151), 9th Floor, Tower (A), Corner of Bogyoke Aung San Road And Wardan Street,(8) Ward, Lanmadaw Township, Yangon.Tel : 95-1-227757~60

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊
**ရန်ကုန်မြို့။**

ရက်စွဲ ။ ။ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ၊ (   )ရက်။

**အကြောင်းအရာ။ ။ <u>လျှပ်စစ်ဓါတ်အား သုံးစွဲခြင်းနှင့် စပ်လျဉ်း၍ ဝန်ခံကတိပြုခြင်း။</u>**

ကျွန်တော်များ **သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်** ၏ PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချမည့် လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရာတွင် စက်ရုံအတွက် လိုအပ်သော လျှပ်စစ်ဓါတ်အားကို မြန်မာ့လျှပ်စစ်ဝန်ကြီးဌာနမှ ထုတ်လွှတ်သော ဓါတ်အားလိုင်းများမှ အဓိကရယူ၍ သုံးစွဲမည်ဖြစ်ပြီး၊ လုံလောက်မှုမရှိပါက ကိုယ်ပိုင်သုံး Generator များကို ထည့်သွင်းအသုံးပြု၍ စီစဉ်ဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြု တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U AUNG MYAT
MANAGING DIRECTOR
NEW GENERAL INDUSTRY CO., LTD.

NGI New General Industry Co., Ltd.
No.(151), 9th Floor, Tower (A), Corner of Bogyoke Aung San Road And Wardan Street,(8) Ward, Lanmadaw Township, Yangon.Tel : 95-1-227757~60

သို့

ဥက္ကဋ္ဌ၊

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊

<u>ရန်ကုန်မြို့။</u>

ရက်စွဲ။ ။ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ၊ (   )ရက်။

အကြောင်းအရာ။ ။ **<u>သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချသော လုပ်ငန်းအား ဆောင်ရွက်ရန် လျှောက်ထားခြင်းနှင့် စပ်လျဉ်း၍ ကတိဝန်ခံချက် တင်ပြခြင်း။</u>**

အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်များ သစ်လွင် အထွေထွေ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် (New General Industry Company Limited)သည် မရမ်းကုန်း မြို့နယ်၊ သမိုင်း(၂)ရပ်ကွက်၊ ပေါ်တော်မူဘုရားလမ်း၊ အမှတ်(၂၉/ဘီ)ရှိ စက်ရုံခွဲ(မရမ်းကုန်း) တွင် PVC PIPE အမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြ၊ လျှောက်ထားရာတွင် အောက်ဖော်ပြပါတို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများ ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။

(ခ) ဤလုပ်ငန်းအား အောင်မြင်အောင် တိုးချဲ့လုပ်ကိုင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်စပ်လျဉ်း၍သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(ဃ) ကျွန်တော်များ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေအရ၊ လိုအပ်သော Environment Impact Assessment (EIA), Social Impact Assessment (SIA) စသည့်အစီအမံများအား လိုက်နာဆောင်ရွက်ပါမည်။

(င) မီးဘေးကြိုတင်ကာကွယ်မှုကိုလည်း စီမံဆောင်ရွက်ထားပြီး နိုင်ငံတော်မှ ချမှတ်ပြဋ္ဌာန်းထားသော နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေး၊ စသည်များကို တိကျစွာလိုက်နာ၊ ဆောင်ရွက်သွားပါမည်ဟု ဝန်ခံကတိပြုပါသည်။

(စ) စက်မှုဝန်ကြီးဌာနသို့ ပေးသွင်းရမည့် မြေငှားရမ်းခများကို တိကျမှန်ကန်စွာ ပေးသွင်းခြင်း၊ MIC သို့ အစီရင်ခံစာများ (Report) များအား မှန်မှန်တင်ပြခြင်း၊ အခွန်ဌာနသို့စာရင်းများကို တိကျမှန်ကန်စွာ တင်ပြခြင်း၊ အခွန်ကင်းလွတ်ကာလပြီးဆုံးချိန်၌လည်း ကုမ္ပဏီများဆိုင်ရာ အခွန်လုပ်ငန်းစုရုံးသို့ စာရင်းများအား တိကျမှန်ကန်စွာတင်ပြခြင်း၊ ပေးသွင်းရမည့်အခွန်အခများကို မှန်ကန်စွာပေးဆောင်ခြင်းတို့ကို ဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

